# မာတိကာ

၄။ အခန်း(၄) ကုရ်အာန်ကျမ်းတော်မြတ်အား ထိန်းသိမ်းစုစည်းခဲ့ခြင်း ကဏ္ဍ

(၁) ကိုယ်တော်မြတ်(ﷺ)ခေတ်၌ ကုရ်အာန်ကျမ်းတော်မြတ်အား ထိန်းသိမ်းစုစည်းခဲ့ပုံ

(၂) ဟဇရသ်အဗူဗကရ်(ﷺ)ခေတ်၌ ကုရ်အာန်ကျမ်းတော်မြတ်အား ထိန်းသိမ်းစုစည်းခဲ့ပုံ

(၃) ဟဇရသ် အွစ္စမာန်(ﷺ)ခေတ်၌ ကုရ်အာန်ကျမ်းတော်မြတ်အား ထိန်းသိမ်းစုစည်းခဲ့ပုံ

၅။ အခန်း(၅) ဤအခန်းတွင် ကဏ္ဍခွဲ (၂) ခုရှိသည်။

ကဏ္ဍခွဲ (၁)

(၁) ပထမဦးဆုံးကျရောက်သည့် အာယသ်တော် ကဏ္ဍ

(၂) ကုရ်အာန်ကျမ်းတော်မြတ်၏ အာယသ်တော်များနှင့် စူရဟ်များကြား အစီအစဉ်

(၃) المَكِّيُّ وَالمَدَنِيُّ အာယသ်တော်များနှင့် ယင်းတို့၏ ထူးခြားချက်များ

(၄) أَسْبَابُ النُّزُوْلِ အာယသ်တော်များ ကျရောက်ရခြင်း၏ အကြောင်းခံများ၊နောက်ခံသမိုင်းများ

ကဏ္ဍခွဲ (၂)

(၁) ကုရ်အာန်ကျမ်းတော်မြတ်ကို အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ချပေးခြင်းပုံစံနှစ်မျိုး

(၂) المُحْكَمُ وَالمُتَشَابِهُ ကဏ္ဍ

(၃) نسخ နက်ဆ်ခ်(အမိန့်တော်ပယ်ဖျက်ခြင်း၊ ပြင်ဆင်ခြင်း ပြောင်းလဲခြင်း)၏ အခြေခံသဘောတရားနှင့် အမျိုး အစားများ

(၄) ကုရ်အာန်ကျမ်းတော်မြတ်အတွင်းရှိ နက်ဆ်ခ်၏ပုံစံများ

၆။ အခန်း(၆)

(၁) إِعْجَازُ الْقُرْآنِ (ကုရ်အာန်ကျမ်းတော်မြတ်သည် မိုအ်ဂျဇာဖြစ်ခြင်း ကဏ္ဍ)

(၂) أَقْسَامُ الْقُرْآنِ (ကုရ်အာန်ကျမ်းတော်မြတ်အတွင်းရှိ (အလ္လာဟ်အရှင်မြတ်ကျိန်ဆိုထားသော ကစမ်များ ကဏ္ဍ)

(၃) قَصَصُ الْقُرْآنِ (ကုရ်အာန်ကျမ်းတော်မြတ်အတွင်းရှိ လွန်လေပြီးသော နဗီတမန်တော်များနှင့်အွမ္မသ်များ၏အကြောင်းအရာများ ကဏ္ဍ)

၇။ အခန်း(၇) ဤအခန်းတွင် ကဏ္ဍခွဲ (၂) ခုရှိသည်။

ကဏ္ဍခွဲ (၁)

(၁) التَّفْسِيْرُبِالنَّقْلِ (မှန်ကန်တိကျသော ဆင့်ပြန်ချက်များပေါ်အခြေခံကာ ဖွင့်ဆိုခြင်း)ကဏ္ဍ

(၂) التَّفْسِيْرُ بِالرَّأْيِ ကဏ္ဍ (မှန်ကန်တိကျသော ဆင့်ပြန်ချက်များကိုအခြေခံပြီး မိမိဘက်မှ ချဲ့ထွင် ဖွင့်ဆိုခြင်း)

(၃) الإِسْرَائِيْلِيَّاتُ (ကျမ်းရပုဂ္ဂိုလ်များထံမှသိရှိရသော အကြောင်းအရာများပေါ်အခြေခံဖွင့်ဆိုခြင်း) ကဏ္ဍ

ကဏ္ဍခွဲ (၂)

(၁) မုဖတ်စိရ်တစ်ဦး၏ ကျင့်ဝတ်များ

(၂) သဖ်စီရ် ကျမ်းဂန်ကြီးများအကြောင်း တစေ့တစောင်း

(၃) မြန်မာ့မြေမှ သဖ်စီးရ်ပညာရှင်ကြီးများနှင့် သဖ်စီးရ်ကျမ်းများ

## အမှာစာ

စကြာဝဠာအပေါင်းနှင့် ခပ်သိမ်းကုန်သောအရာ အားလုံးကိုမွေးမြူဖန်ဆင်း စိုးပိုင်နိုင်နင်း ကျွေးမွေးစောင့်ရှောက်တော်မူသော တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တနှင့် ပြီးပြည့်စုံတော်မူ၍ တစ်ပါးတည်းတည်ရှိတော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမတော်ဖြင့် အစပြုပါ၏။

"أُصُوْلُ التَّفْسِيْرِ" ဟူသည် အလွန်ကျယ်ပြန့်သော ပညာရပ်တစ်ခုဖြစ်သည်။ ဤပညာရပ်နှင့် စပ်လျဉ်း၍ အရဗီစာပေတွင် ခိုင်မာသော ကျမ်းကြီးများ ရှိထားပြီးဖြစ်ပါသည်။ ထို့ပြင် အူရ်ဒူစာပေတွင်လည်း ဤပညာရပ်နှင့်ပတ်သက်၍ ကျမ်းကြီးများရှိပါသည်။ ထို့အတူ ကျမ်းမြတ်ကုရ်အာန်၏ သဖ်စီရ်များကို ရေးသားခြင်း၊ ဟောပြော ခြင်းများပြုရာ၌ အူစူလွလ်သဖ်စီရ်ပညာရပ်ကို တတ်ကျွမ်းနားလည်ရန် အလွန်ပင်အရေးကြီးပေသည်။ ထို့နောက် မိမိပြုသောသဖ်စီရ်မှာလည်း ကုရ်အာန်ကျမ်းတော်မြတ်၏ သဖ်စီရ်ဆိုင်ရာစည်းမျဉ်းဥပဒေများနှင့် ကိုက်ညီမှုရှိရပေမည်။ ထို့ပြင် မွတ်စလင်မ်တို့သည် သဖ်စီရ်ပညာရပ်၏ စည်းမျည်းဥပဒေများကို ရှင်းလင်းစွာသိကြပြီး ထိုအသိကို အခြေခံကာ သဖ်စီရ်အမှားများကြောင့်ဖြစ်ရသော အယူတိမ်းလမ်းများ လွဲချော်မှုများကို သုံးသပ်သဘောပေါက်နိုင်ကြရန် အရေးကြီးလှပေ သည်။

အလ္လာဟ်အရှင်မြတ်၏ အလိုတော်ဖြင့် ကျွန်ုပ်သည် ဒေါက်တာ အက်ရမ် (နဒ်ဝီ)ရေးသားပြုစုသော "مبادئ في علم أصول التفسير" အမည်ရှိ အူစူလွလ်သဖ်စီရ်ဆိုင်ရာ ကျမ်းတစ်စောင်ကို မဒ်ရစဟ် အဗူဗက်ရ် ကျောင်းတော်တွင် သင်ကြားခွင့်ရရှိခဲ့သည်။ ထိုကျမ်း၏ ကြီးမြတ်မှုနှင့် သင်ရိုးဆိုင်ရာရှုထောင့်မှ ကြည့်လျှင် အလွန်ပင်အကျိုးရှိ မှုများကို တွေ့ ရှိခဲ့ရသော်လည်း ကျောင်းသားများကို သင်ကြားပို့ချရာ၌ အချို့သော အခက်အခဲများကို တွေ့ရှိခဲ့ရပေသည်။ ယင်းအခက်အခဲမှာ အူစူလွလ် သဖ်စီရ် ပညာရပ်ကို စတင်သင်ယူသောကျောင်းသားများသည် ကြားခံ ဘာသာစကားပါနေသည့်အတွက်ကြောင့် နားလည်သဘောပေါက်ရာ တွင် မိခင်ဘာသာစကားဖြင့် တိုက်ရိုက်သင်ယူခြင်းလောက် အကျိုးမ ဖြစ်ထွန်းခြင်းပင်ဖြစ်သည်။ ထို့ကြောင့် အခြေခံ ကျောင်းသားများအ တွက် အူစူလွလ်သဖ်စီရ်ကို နားလည်သဘောပေါက်ရာတွင် လွယ်ကူစေ ရန်နှင့် ယင်းဘာသာရပ်နှင့်သက်ဆိုင်သည့် အရဗီကျမ်းဂန်ကြီးများကို လွယ်ကူစွာလေ့လာနိုင်ရန် ဤ"تيسير أصول التفسير"အမည်ရှိ စာအုပ်ငယ် ကို ပေါင်းကူးတံတားအနေဖြင့် ရေးသားခဲ့ ပါသည်။ ထိုစာအုပ်ငယ်သည် အူစူလွလ်သဖ်စီရ်ဘာသာရပ်၏မူရင်း ကျမ်းဂန်ကြီးများကိုပင် လေ့လာ ရန်မလိုအပ်သည့် အကျယ်တဝင့်ရေးသားထားသော စာအုပ် မျိုးမဟုတ် ပေ။ သို့သာမက ဤစာအုပ်ငယ်သည် ၎င်းမူရင်းကျမ်းဂန်ကြီး များကို လေ့လာနိုင်ရန် ပို့ဆောင်ပေးမည့် သော့တစ်ချောင်းပမာပင်ဖြစ် သည်။

ကျွန်ုပ်သည် ဤစာအုပ်ငယ်ကို အခန်း ၇ ခန်းခွဲ၍ ရေးသားခဲ့ပါသည်။ အခန်း ၅ နှင့် အခန်း ၇ တွင် ကဏ္ဍာခွဲ နှစ်ခုစီခွဲထားပါသည်။ ထို့နောက် အခန်းတိုင်း၏အစတွင် ထိုအခန်းတွင်ပါဝင်မည့် အကြောင်းအရာပုံကြမ်းများကိုဖော်ပြထားပြီး အခန်းတိုင်း၏အဆုံးတွင် လေ့ကျင့်ခန်းများကိုပါ ထည့်သွင်းရေးသားထားပါသည်။ ထို့ပြင် အရောအသားကို အရှင်းလင်းဆုံးပုံစံမျိုးဖြင့် ရေးသားသကဲ့သို့ အချို့သော ကဏ္ဍာများတွင် ကျောင်းသားများ လွယ်ကူစွာမှတ်သားနိုင်ရန် ဇယားများဆွဲ၍ ဖော်ပြထားပါသည်။ ပြီးနောက် အခြေခံသင်ရိုး စာအုပ်ဖြစ်သည့်အတွက် အကွဲအလွဲများ၊ များစွာသောပညာရှင်တို့၏ အဆိုအမိန့်များ၊ ကဏ္ဍာတိုင်း၏ အကျယ်တဝင့် ရှင်းလင်းချက်များကို ဖော်ပြခြင်းမရှိဘဲ အရေးကြီးသည့် အချက်အလက်များကိုသာ အတိုချုံး၍ ဖော်ပြပေးထားပါသည်။

သို့ပါ၍ ဤစာအုပ်ငယ်ကို သင်ကြားပေးသည့် ဆရာများအား ကျွန်ုပ်ဘက်မှ အထူးမေတ္တာရပ်ခံလိုသည်မှာ–

၁။ ဤဘာသာရပ်နှင့် မိတ်ဆက်ပေးပါ။ ထိုသို့မိတ်ဆက်ရာတွင် ‘အခြေခံသုတများ’ကို စာအုပ်တွင်ပါရှိသည့်အတိုင်း ဂရုတစိုက်သင်ကြားပေးပါ။

၂။ သဖ်စီရ်ပညာရပ်ဆိုင်ရာ အခြေခံဝေါဟာရများကို ဥပမာနှင့်တကွ ကျေညက်အောင်သင်ကြားပေးပါ။

၃။ ဥပဒေများနှင့် အမျိုးအစားများကို ရှင်းပြသည့်အခါ White board ကိုလည်း အသုံးပြုပါ။

၄။ အခန်းတစ်ခန်းတိုင်း၏ သက်ဆိုင်ရာ ဖွင့်ဆိုချက်များကို ဥပမာနှင့် တကွ နှုတ်တိုက်ရှင်းပြပေးပါ။

၅။ ဤစာအုပ်သည် အုစူလွလ်သဖ်စိရ်ဆိုင်ရာ အခြေခံကျသော စာအုပ် ဖြစ်သည့်အတွက် အခန်းတစ်ခန်းကို ကျေညက်မှုမရှိဘဲ အခန်းသစ်ကို လုံးဝအစမပြုပါနှင့်။

ကျောင်းသားညီနောင်များအတွက် ကျွန်ုပ်၏မပြောပလောက်သော ဤကြိုးပမ်းမှုကိုတင်ဆက်ရင်း ပညာရပ်၏ဝတ္တရားကို အပြည့် အဝမကျေပွန်နိုင်ခြင်းအပေါ် ကျွန်ုပ်၏လျော့နည်းမှုလား ဝန်ခံပါ၏။ ထို့ နောက် ကျွန်ုပ်သည် လူသားဖြစ်သည့်အလျောက် မှားယွင်းချွတ် ချော်မှု များမှ ကင်းစင်ကြောင်းကိုလည်း မဖွက်ဟနိုင်ပါ။ ထို့ကြောင့် ကျွန်ုပ်၏ မှားယွင်းချွတ်ချော်မှုကိုတွေ့ရှိပါက ကျေးဇူးပြု၍ အပြုသဘောဆောင် သည့်ပုံစံမျိုးဖြင့် အသိပေးအကြောင်းကြားပေးပါရန် မေတ္တာရပ်ခံအပ်ပါ သည်။ ထို့နောက် အလ္လာဟ်အရှင်သည် ဤအစာအုပ်ဖြင့် မွတ်စ်လင်မ် ထုတစ်ရပ်လုံးကို အကျိုးဖြစ်ထွန်းစေတော်မူ၍ ဖတ်ရှုသူ၊ ရေးသား သူနှင့် စာအုပ်ဖြစ်မြောက်ရေးတွင် ဝိုင်းဝန်းကူညီသူများအားလုံးကို မြင့် မြတ်တော်မူသောအရှင်မြတ်က နှစ်ဌာနလုံးတွင် ကောင်းသော အစား များ ချီးမြှင့်ပေးသနားတော်မူပါစေ။ ဆန္ဒမွန်ဖြင့်.....မုဟာမ္မဒ်ဖိုင်ဆွလ်(အလ်ကောင်စရီ)

بسم الله الرحمن الرحيم

**အလ်ဟားဂျ် မော်လာနာ မုဖ်သီ မုဟာမ္မဒ် အာစွင်းမ်**

**(နဒ်ဝီ ၊ အဗုလ်ဟစနီ၊ မဇ္ဇာဟေ့ရီ) ၏ ရင်တွင်းစကား**

**အမှာစာရှည်သွားတာ တောင်းပန်ပါရစေ.......**

الحمد لله العلي الأكرم ، والصلاة والسلام على سيدنا محمد ماجرى المداد بالقلم .

## علم أصول التفسير(သိဖ်စီးရ် သိပ္ပံပညာရပ်)

علم أصول التفسير (သိဖ်စီးရ်သိပ္ပံပညာရပ်) ဆိုသည်မှာ ကျမ်းမြတ်ကုရ်အာန်ကို အကျယ်ဖွင့်ဆိုရာတွင် လိုအပ်သည့်ပညာရပ်များ၊ ဥပဒေများကို သင်ကြားပေးသော ပညာရပ်တစ်ခုဖြစ်သည်။

## علم أصول التفسير(သိဖ်စီးရ် သိပ္ပံ ပညာရပ်)သမိုင်း

ကျမ်းမြတ်ကုရ်အာန်ကို အကျယ်ဖွင့်ဆိုသည့် ပညာရပ်သည် ကိုယ်တော်မြတ်ﷺ၏ လက်ထက်တော်မှ စတင်ခဲ့သော်လည်း علم أصول التفسير အား ပြုစုခဲ့ခြင်း အစီအစဉ်သည် နောက်ကျခဲ့သည်။

ကျမ်းမြတ်ကုရ်အာန်အား အကျယ်ဖွင့်ဆိုရာတွင် စည်းစနစ်မမှန်ကန်ဘဲ ထင်ရာစိုင်းသူများ၊ ခိုင်လုံတိကျမှုမရှိသော ကိုးကားချက်များဖြင့် ကျမ်းမြတ်ကုရ်အာန်ကို ဖွင့်ဆိုသူများ များပြားလာခြင်းကြောင့် ဤ

ဘာသာရပ်၏ ဥပဒေများ၊ မူများကို အတိအကျသတ်မှတ် ရေးဆွဲခဲ့ကြခြင်းဖြစ်သည်။

စာပေသမိုင်းပညာရှင်များ၏ သုတေသနပြုချက်အရဤဘာသာရပ်ကို တွင်တွင်ကျယ်ကျယ်(၂) ရာစုနှစ်မှ စတင်ပြုစုခဲ့ကြောင်းတွေ့ရှိရသည်။

**(၂) ရာစုနှစ် – أحكام القرآن للإمام الشافعي**

✍ ပထမဦးဆုံး أصول التفسير ဆိုင်ရာ အခြေခံဥပဒေများကို အေမာမ် ရှာဖေ့အီ ﷺ (၂၀၄ကွယ်လွန်)သခင်က မိမိ၏ أحكام القرآن ကျမ်းတွင် ဖော်ပြခဲ့သည်။

**ဟစ်ဂျ်ရီ(၃+၄) ရာစုနှစ်အတွင်းရှိ ကျမ်းများ**

✍ အေမာမ် အိဗ်နေ့ကိုသိုင်ဗဟ် ﷺ (၂၇၆ကွယ်လွန်)၏ " تأويـــل مشـــكل القـــرآن "

✍ အေမာမ် သွဟာဝီ ﷺ(၃၂၁ကွယ်လွန်) ၊ အေမာမ် ဂျစ်စွားစ် ﷺ (၃၇၀ကွယ်လွန်) တို့၏ أحكام القرآن

**ဟစ်ဂျ်ရီ(၅+၆)ရာစုနှစ်အတွင်းရှိကျမ်းများ**

✍ အေမာမ် အဗူနဆ္ဂ်ရ် အလ်ဟာဒ်ဒါဒီ ﵀ (၄၀၀နောက်ပိုင်း ကွယ်လွန်) ၏ المدخل لعلم تفسير كتاب الله تعالى

✍ အေမာမ် ဂျိုဝိုင်နီ ﵀ (၄၇၈ကွယ်လွန်)၏ البرهان

✍ အေမာမ် ဂဇာလီ ﵀ (၅၀၅ကွယ်လွန်)၏ المستصفى

**<u>ဟစ်ဂျ်ရီ( (၇) ရာစုနှစ်အတွင်းရှိကျမ်းများ</u>**

✍ အေမာမ် အဗ်ဒွရ်ရဟ်မားန် အလ်ဟေရာလီ (၆၃၈ကွယ်လွန်)၏ مفتاح اللُّبِّ المقفل لفهم القرآن المنـزّل

✍ အေမာမ် နဂျ်မွဒ္ဒီးန် သူဖီ (၇၁၀ကွယ်လွန်)၏

الإكسير في قواعد التفسير

အေမာမ် အိဗ်နုလ် အက္ကဖာနီ (၇၄၈ကွယ်လွန်) ၏

نغب الطائر من البحر الزاخر

✍ အေမာမ် ဇရ်ကရှီ (၇၉၄ကွယ်လွန်)၏

علم كشف معاني القرآن

**(၈)ရာစုနှစ်အတွင်းရှိကျမ်းများ**

✍ အေမာမ် ဂျလာလွဒ္ဒီးန် အလ်ဗုလ်ကီနီ (၈၂၄ ကွယ်လွန်)

၏ مواقع العلوم من مواقع النجوم

✍ အေမာမ် ကာဖီဂျီ (၈၇၉ကွယ်လွန်)၏

التيسير في قواعد علم التفسير

**(၉) ရာစုနှစ်အတွင်းရှိ ကျမ်းများ**

✍ အေမာမ် ဂျလာလွဒ္ဒီးန် စူယူသွီ (၉၁၁ ကွယ်လွန်) ၏

التحبير في علم التفسير

**(၁၀)ရာစုနှစ်**မှစ၍ أصول التفسير ဆိုင်ရာ ကျမ်းအမြောက်အမြားကို အသွင်အမျိုးမျိုး၊ ရှုထောင့်အမျိုးမျိုးဖြင့် လိုအပ်ချက်များကို ရှေ့ရှုကာ ပညာရှင်များက ရေးသားပြုစု ခဲ့ကြပါသည်။

ဤကြိုးပမ်းမှုတွင် အုပ်တစ်ချပ်၊ သဲတစ်ပွင့် ပါဝင်ခွင့်ရရှိခဲ့သည့် ပညာရှင်အပေါင်းကို အရှင်မြတ် ကောင်းသောအစားများ ချီးမြှင့်ပေးသနားတော်မူပါစေ။ အာမီးန်

## မြန်မာဘာသာဖြင့် علم أصول التفسير (သိဖ်စီးရ် သိပ္ပံ ပညာရပ်) ပြုစုခြင်း

မြန်မာ့မြေမှ ပညာရှင်များကလည်း မိမိတို့ပတ်ဝန်းကျင်၏ တောင်းဆိုချက်များ၊ လိုအပ်ချက်များနှင့်အညီ ဤဘာသာရပ်ဆိုင်ရာ အခန်းကဏ္ဍအချို့ကို ပြုစုပေးခဲ့ကြသည်။

ကျွန်ုပ်၏မပြည့်စုံသော လေ့လာချက်၊ မြန်မာ့စာပေသမိုင်းပညာရှင်အချို့အား မေးမြန်းချက်များအရ ကျွန်ုပ်တို့မြန်မာနိုင်ငံတွင် ကုရ်အာန့် အသိပညာပြန့်ပွားရေးကို တစိုက်မတ်မတ်ကြိုးပမ်းခဲ့သော ပညာရှင်ကြီးများဖြစ်ကြသည့် ဆရာကြီး ဦးနု(၁၈၂၂) ကွယ်လွန်မှသည် ကျေးဇူးရှင်ကြီး သီရိပျံချီအလ္လာမဟ်ဃာဇီမုဟာမ္မဒ်ဟာရှင်မ် (၁၉၉၃ ကွယ်လွန်)ထိ ပွင့်ခဲ့သောပညာရှင်ကြီးများသည် ကျမ်းမြတ်ကုရ်အာန်ကို မြန်မာဘာသာသို့ စနစ်တကျ ပြန်ဆိုခဲ့ကြသည်။ ထိုပညာရှင်ကြီးများက မိမိတို့ဘာသာပြန်ကျမ်းအသီးသီး၏ နိဒါန်းတွင် ကုရ်အာန့်သိပ္ပံပညာရပ်မှ အရေးကြီးလိုအပ်သည့် အခန်းကဏ္ဍများကို ဖော်ပြခဲ့ ခြင်းများရှိသော်လည်း ယခုကျွန်ုပ်တို့တင်ပြမည့် علم أصول التفسير**(သိဖ်စီးရ် သိပ္ပံပညာရပ်)**ဆိုင်ရာ ကျမ်းငယ်ကဲ့သို့ သီးသန့်ကျမ်းတစ်ခုအဖြစ် ပြုစုထားခြင်း မရှိပါ။ والله أعلم بالصواب

အထူးသဖြင့် သဖ်စီရ် သိပ္ပံပညာရပ်ကို မြန်မာဘာသာဖြင့် ကျောင်းသင်ရိုးပြဋ္ဌာန်း စာအုပ်အဖြစ် ရေးသားထားသည့် ကျမ်းမျိုးကိုလည်း မတွေ့ဖူးပါ။

ဤသို့မရှိရခြင်းအတွက် အကြောင်း(၂)ချက်ကို တွေးမိပါသည်။

- أصول ဘာသာရပ်များကို အတန်းကြီးမှ သင်ယူရခြင်း။
- ဤကဏ္ဍတွင် အရဗီအူရဒူဘာသာဖြင့် ကျမ်းအမြောက်အများရှိနေခြင်း။

**علوم القرآن (ကုရ်အာန့်နိဒါန်း)**

ရှိုင်ခွလ်အစ္စလာမ် ဟဇရသ်မော်လာနာမုဖ်သီ သကီးအွတ်ဆ်မာနီ حفظه الله သည် မိမိဖခင်ကြီး၏ မအာရေ့ဖွလ်ကုရ်အာန်ကျမ်းကြီး၏ အမှာစာအဖြစ် علوم القرآن ကျမ်းကို အူရဒူဘာသာဖြင့်ရေးသားပြုစုခဲ့သည်။ ထိုကျမ်း၏ ပထမပိုင်းကို ဆရာမော်လာနာပသီ ကျော်ဦးမှ “ကုရ်အာန့်နိဒါန်း”အမည်ဖြင့်ဘာသာပြန်ဆိုပေးခဲ့သည်။ ထိုကျမ်းတွင် ကုရ်အာန့် သိပ္ပံဆိုင်ရာကဏ္ဍအဝဝကို မြန်မာဘာသာဖြင့်တွေ့ရှိရကြောင်း မှတ်တမ်းတင်အပ်ပါသည်။

မြန်မာနိုင်ငံရှိ အချို့သော ကျောင်းများတွင် မူရင်းအူရဒူကျမ်းကို သင်ရိုးတွင်ပြဋ္ဌာန်း သင်ကြားနေသည်လည်းရှိပါသည်။

## မြန်မာဘာသာဖြင့် علم أصول التفسير(သိဖ်စီးရ် သိပ္ပံ ပညာရပ်)

အရဗီဘာသာ၊ အူရဒူဘာသာဖြင့် علم أصول التفسير**(သိဖ်စီးရ် သိပ္ပံ ပညာရပ်)** ဆိုင်ရာ ကျမ်းများ အများအပြားရှိနေသော်လည်း မြန်မာနိုင်ငံသား မျိုးဆက်သစ်လူငယ်များအတွက် ဘာသာရပ်တိုင်း၏ ကနဦးအခြေခံစာအုပ်များကို မိခင်ဘာသာစကားဖြင့်သာ သင်ပေး/ သင်ယူလုပ်ခြင်းမှာ ထိရောက်မှုရှိပါသည်။

သို့မှသာ ဝေါဟာရအသုံးအနှုန်းများကို မြန်မာဆန်ဆန်နားလည်သဘောပေါက်နိုင်ပြီး မြန်မာဆန်ဆန်ဘာသာ ပြန်ဆိုနိုင်မည်ဖြစ်သည်။

## <u>မြန်မာ့မြေမှ မွတ်စ်လင်မ်အွမ္မသ်ထုအတွက် အိမ်မက်တစ်ခု အကောင်အထည်ပေါ်လာခြင်း</u>

မြန်မာ့မြေရှိ ရင်သွေးရတနာများအတွက် ခေတ်စနစ်နှင့်အညီ၊ အထက်ပါ ကွက်လပ်များကို အတတ်နိုင်ဆုံးဖြည့်စွက်ပေးမည့် စာအုပ်တစ်အုပ်ကို စာဖတ်ပရိသတ်ထံ တင်ဆက်ရင်း အရှင်မြတ်ကို အတိုင်းမသိ ကျေးဇူးတင်မိပါသည်။ ထိုစာအုပ်ကို မျိုးဆက်သစ် ကလောင်ရှင် မော်လာနာဟာဖိဇ်မုဟာမ္မဒ်ဖိုင်ဆလ်(အလ်ကောင်ဆရီ)က ပြုစုထားပါသည်။

ဆရာသည် ဤကျမ်းငယ်ကို မန္တလေးမြို့ တောင်ဆင်ကျုံးဗလီဝင်းအတွင်း ဖွင့်လှစ်ထားသည့် ABUBAKR EDUCATION CENTER တွင် (ခေတ်ပညာတတ်များအတွက် (၅)နှစ်တာ အာလင်မ်သင်ရိုးအတွက် ပြဋ္ဌာန်းအဖြစ် စတင်ရေးသားခဲ့သည်။ ဤမှတဆင့် အခြားသော ကျောင်းများတွင်လည်း သင်ကြားရာ အကျိုးဖြစ်ထွန်းကြောင်း တွေ့ရှိရသည်။

**ဤကျမ်းငယ်၏ ထူးခြားချက်များမှာ ....**

❍ ရိုးရှင်းလွယ်ကူလှသော ရေးနည်းရေးဟန်ကို အသုံးပြုထားခြင်း။

❍ أصول التفسير ပညာရပ်ဆိုင်ရာ ကဏ္ဍများအား စုံလင်စွာ တင်ပြထားခြင်း။

❍ ခိုင်လုံတိကျသော ကျမ်းများကိုသာ ကိုးကားတင်ပြခြင်း။

❍ လက်တွေ့ကျလှသော နည်းစနစ်ကိုအသုံးပြုထားပြီး လေ့ကျင့်ခန်းများကိုပါ တစ်ပါတည်း တင်ပြထားခြင်း။

❍ အရဗီဝေါဟာရများကို မြန်မြန်မာဆန်ဆန် တင်ပြထားခြင်း။

❍ စာအုပ်ပါ သင်ခန်းစာ တစ်ခုတိုင်းအတွက်
သင်ကြားနည်းလမ်းညွှန်ကိုပါ ပူးတွဲ ဖော်ပြ ထားခြင်း။
စသည်ဖြင့်.........

ကျန်ရှိနေသော အလှတရားများကို စာဖတ်ပရိသတ်အနေဖြင့် ကိုယ်တိုင်ကိုယ်ကျ ခံစားသိမြင်နိုင်ပါသည်။

ဤပညာရှင်သည် ကျွန်ုပ်တို့မြန်မာနိုင်ငံရှိ أصول التفسير ဆိုင်ရာ နယ်ပယ်၏ တောင်းဆိုချက်တစ်ရပ်ကို ဖြည့်ဆည်းလိုက်ခြင်းဖြစ်သည်။ ကျွန်ုပ်၏ မပြည့်စုံသော လေ့လာချက်အရ ဤကျမ်းသည် ဤနယ်ပယ် အတွက် ပထမဆုံး ကျမ်းဖြစ်လိမ့်မည်ဟု မှတ်ချက်ပြုလိုပါသည်။

ကျွန်ုပ်သည် ဤကျမ်းကို စ၊လယ်၊ဆုံး တစ်ကြိမ်ထက်မနည်း ကြည့်ရှုခဲ့ပါသည်။ လိုအပ်သည်များကိုလည်း အကြိမ်ကြိမ် ဝိုင်းဝန်းပြင်ဆင်ခဲ့ပါသည်။ ပါမောက္ခ ဒေါက်တာ သန်းဝင်း၊ ဆရာကြီး ဦးအောင်လွင်(ရွှေတြိဂံ)၊ ဆရာကြီး ဦးအေးမူ၊ ဆရာ ကိုမင်း (B.A(his) တို့သည် မြန်မာစာပိုင်းကို တာဝန်ယူစစ်ဆေးပေးခဲ့ပြီး ဘာသာရပ်ပိုင်း ဆိုင်ရာကိုမူ ကျွမ်းကျင်အဆင့်ရှိ ပညာရှင်များက တာဝန်ယူစစ်ဆေးပေး ခဲ့ပါသည်။

## အကြံပြုချက်

ဤကဲ့သို့ အဖက်ဖက်မှ ဝိုင်းဝန်းကြိုးပမ်းထားသော်လည်း လိုအပ်ချက်များ၊ အမှားများမှာလည်း ဆက်လက်ရှိနေဦးမည်ဖြစ်ပါသည်။ စာရှုသူများဘက်မှ တစ်စုံတစ်ရာ အကြံပြုလိုလျှင်သော်လည်းကောင်း၊ အမှားပြင်ဆင်ချက် တစ်စုံတစ်ရာကိုသော်လည်း ကောင်း ချီးမြှင့်လိုပါ

က ကျမ်းရှင်၏နံပါတ်(09-952452222)ကို တိုက်ရိုက် ဆက်သွယ်ပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

အာလင်မ်ကျောင်းတော်များ၏ ကျောင်းအုပ်ဆရာကြီးများ၊ ပညာရေးတာဝန်ခံများအနေဖြင့် ဤစာအုပ်ကို လေ့လာကြည့်ပြီး မိမိတို့သင်ရိုးတွင် ပြဌာန်းစာအုပ်ဖြင့် ထည့်သွင်းမည်ဆိုလျှင် များစွာအကျိုးရှိလိမ့်မည်ဟု မျှော်လင့်ပါသည်။

## နိဂုံးချုပ်ဒိုအာ

မြင့်မြတ်တော်မူသောအရှင်မြတ် ဤကျမ်းငယ်ကို အထူးလက်ခံသဘောတူ တော်မူပါစေ။ ဤကျမ်းပြုစုသူများ၊ ဤကျမ်းဖြစ်မြောက်ရေးတွင် အဖက်ဖက်မှ အုပ်တစ်ချပ်သဲတစ်ပွင့် ပါဝင်ခဲ့ကြသူများ၊ ဤကျမ်းကို သင်ပေးသင်ယူလုပ်သူများကိုလည်း နှစ်ဘဝနှစ်ဌာနတွင် လိုတရ အဆင့်ကို ပိုင်ဆိုင်ခွင့်ချီးမြှင့်ပေးသနားတော်မူပါစေ။

ဤကျမ်းငယ်ဖြင့် အွမ္မသ်ထုတစ်ရပ်လုံးကိုလည်း ကေယာမသ်တိုင် အကြိုးခံစားခွင့် များချီးမြှင့်ပေးသနားတော်မူပါစေဟု ဆုမွန်ကောင်းများ အရှင်မြတ်ထံ တောင်းဆုပန်ရင်း................

မုဟာမ္မဒ် အာစွင်းမ် (နဒ်ဝီ၊အဇွလ်ဟာစနီ၊ မဇ္ဇာဟေ့ရီ)

၂၈၊ ဇုလ်ဟိဂျ်ဂျာလ၊ ဟစ်ဂျ်ရီ (၁၄၄၃)ခု ၂၈၊ ၇၊ ၂၀၂၂ခု (ကြာသပတေးနေ့)

## အခန်း(၁)

- التَّفْسِيْرُ ပညာရပ်နှင့် ဖြစ်ပေါ်လာပုံသမိုင်း
- التَّفْسِيْرُ ပညာရပ်၏ အရေးကြီးပုံ
- أُصُوْلُ التَّفْسِيْرِ ပညာရပ်နှင့် ဖြစ်ပေါ်လာပုံသမိုင်း
- أُصُوْلُ التَّفْسِيْرِ ပညာရပ်ဆိုင်ရာ အခြေခံသုတများ

## အခန်း(၁)

## (၁) عُلْمُ التَّفْسِيْرِ ပညာရပ်နှင့် ဖြစ်ပေါ်လာပုံသမိုင်း

အရဗီစာပေ၌ التَّفْسِيْرُ ဆိုသည်မှာ........ မူရင်းပုဒ်ဖြစ်သည့် الفسر မှ ခွဲထွက်လာသော စကားလုံးဖြစ်သည်။ ၎င်း၏အဓိပ္ပာယ်မှာ အရာ တစ်ခုကို ရှင်းလင်းတင်ပြခြင်း၊ ဖုံးကွယ်နေသောအရာကို ပေါ်လွင် အောင်ပြု ခြင်းဟူ၍ ဖြစ်သည်။

ပညာရပ်ဆိုင်ရာဝေါဟာရအရဆိုလျှင် တမန်တော်မုဟမ္မဒ်(ﷺ) ထံသို့ ချပေးခြင်းခံထားရသော ကုရ်အာန်ကျမ်းမြတ်၏ အမြော်အမြင် နှင့်ပြည့်စုံနေသည့် လမ်းညွှန်ချက်များ၊ အမိန့်ပညတ်ချက်များ၊ အဓိပ္ပာယ်များ၊ အနှစ်သာရများ စသည့်အကြောင်းအရာများကို နား လည်သဘောပေါက်ရန် လေ့လာရသည့် ဘာသာရပ်အား التَّفْسِيْرِ عِلْمُဟု ခေါ်ဆိုပေ သည်။

## عُلْمُ التَّفْسِيْرِ ဖြစ်ပေါ်လာပုံသမိုင်း

ကိုယ်တော်မြတ်(ﷺ)သခင် သက်ရှိထင်ရှားရှိစဉ်အခါတွင် ကုရ် အာန်ကျမ်းတော်မြတ်နှင့်ပတ်သက်၍ အကျယ်ဖွင့်ဆိုသူမှာ ကိုယ်တော် မြတ်(ﷺ) တစ်ပါးတည်းပင်ဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် ကုရ် အာန်ကျမ်းတော်မြတ်သည် ကိုယ်တော်မြတ်(ﷺ)ထံသို့ ကျရောက်ခဲ့ပြီး ကျမ်းမြတ်ကုရ်အာန်ပါအကြောင်းအရာများအား အွမ္မသ်ကို ရှင်းပြပေး ရန် အရှင်မြတ်က ကိုယ်တော်သခင်ကို တာဝန်ပေးခဲ့သောကြောင့်ပင်။

ထို့နောက် ကိုယ်တော်မြတ်(ﷺ) ဝဖားသ်ဖြစ်ပြီး နောက်ပိုင်းတွင် ဆွဟာဗဟ် သာဝကကြီးများအနက်မှ မုဖက်စိရ်ဆွဟာဗဟ်ကြီးများ၏ အဖွဲ့တစ်ဖွဲ့ ပေါ်ထွန်းလာပေသည်။

သူတို့သည် -----

❍ ကုရ်အာန်ကျမ်းတော်မြတ်ကို ကိုယ်တော်မြတ်(ﷺ) ထံတော်မှ လာရှိထားသည့် ဆင့်ပြန်ချက်များနှင့် သော်လည်းကောင်း၊

❍မိမိတို့၏ ပင်ကိုဗီဇအရ အရဗီဘာသာစကားအား တက်ကျွမ်းနားလည်မှုဖြင့် သော်လည်းကောင်း၊

❍သာသနာတော်၏ အခြေခံဥပဒေများနှင့် အစ္စလာမ့်ရှရီအသ်၏ သဘောတရားများနားလည်းတက်ကျွမ်းမှုကို အခြေခံ၍လည်းကောင်း ကုရ်အာန်ကျမ်းတော်မြတ်အား သဖ်စိရ်ပြုခဲ့ကြသည်။ တစ်နည်း အကျယ်ဖွင့်ဆိုခဲ့ကြသည်။

**<u>ထင်ရှားကျော်ကြားသော ဆွဟာဗီ သဖ်စီးရ်ပညာ ရှင်ကြီးများ</u>**

ဆွဟာဗဟ်သာဝကကြီးများ အနက်မှ ထင်ကြားကျော်ကြားသော မုဖက်စိရ်ဆွဟာဗဟ်ကြီးမှာ-

"الخلفاء الأربعة سيدنا أبوبكر و سيدنا عمر و سيدنا عثمان و سيدنا علي
و سيدنا عبد الله بن مسعود و سيدنا أبي بن كعب و سيدنا زيد بن ثابت
و سيدنا أبو موسى الأشعري و سيدنا عبد الله بن الزبير
و سيدنا عبد الله بن عباس رضي الله عنهم".

တို့ဖြစ်ပါသည်။

## သာဗီအီးန်များလက်ထက်တွင် (ဟစ်ဂျရီ ၁၁၀ ခုမှ ၁၇၀ ခုနှစ်ထိ)

သာဗီအီးန်များခေတ်တွင် ကုရ်အာန်သဖ်စိရ်နှင့် ပတ်သက်၍ ကျောင်းတော်ကြီး (၃)ကျောင်း ပေါ်ထွန်းလာခဲ့လေသည်။

### မက္ကာဟ်ရွှေမြို့တော်ရှိ ကျောင်းတော်ကြီး

ထိုကျောင်းတော်ကြီး၏ ကျောင်းအုပ်ဆရာသခင်ကြီးမှာ ဟာဇရသ်အဗ္ဗဒ္ဒုလ္လာစ်ဗင်န်အဗ္ဗားစ်(ﷺ)သခင်ဖြစ်ပြီး ဆရာသခင်ကြီး၏ ထင်ရှားကျော်ကြားသော တပည့်များမှာ- سعيد بن جبير ومجاهد ابن جبر وعكرمة مولى ابن عباس وطاؤوس بن كيسان اليماني وعطاء بن أبي رباح وأبو الشعثاء جابر بن زيد(ﷺ)သခင်တို့ဖြစ်ပါသည်။

### မဒီနာဟ်မြို့တော်ရှိ ကျောင်းတော်ကြီး

ထိုကျောင်းတော်ကြီး၏ ကျောင်းအုပ်ဆရာသခင်ကြီးမှာ ဟာဇရသ်အိုဗိုက်ယ်ဗင်န်ကအ်ဗ်(ﷺ)သခင်ဖြစ်ပြီး ဆရာသခင်ကြီး၏ ထင်ရှားကျော်ကြားသော တပည့်များမှာ- أبو العالية ومحمد بن كعب القرظي وزيد بن أسلم(ﷺ)သခင်တို့ဖြစ်ပါသည်။

### အီရတ်မြို့ရှိ ကျောင်းတော်ကြီး

ထိုကျောင်းတော်ကြီး၏ ကျောင်းအုပ်ဆရာသခင်ကြီးမှာ ဟာဇရသ်အလီ(ﷺ) သခင်၊ ဟာဇရသ် အဗ္ဗဒ္ဒုလ္လာဟ်ဗင်န် မက်စ်အူးဒ်သခင်နှင့် အခြားသော ဆွဟာဗဟ်(ﷺ)ကြီးများ ဖြစ်ကြသည်။ ဤကျောင်းတော်

ကြီး၏ ထင်ရှားကျော်ကြားသော တပည့်များမှာ- علقمة بن قيس ومسروق وعطاء بن دينار الهذلي المصري رحمهم الله بن الأجدع သခင်တို့ဖြစ်ပါသည်။

**ပထမဆုံးသဖ်စီရ်ပညာရပ်ကို စတင်မျိုးစေ့ချခဲ့သူ**

သဖ်စိရ်ပညာရပ်ကို ပညာရပ်တစ်ခုအဖြစ် စတင်မျိုးစေ့ချခဲ့သူမှာ ဟဇရသ်မုဂျာဟစ်ဒ်(ﷺ)ဖြစ်သည်ဟု ဆင့်ပြန်ချက်လည်းလာရှိထားပေသည်။ ابن أبي مليكة(ﷺ)က ဤသို့အမိန့်ရှိသည်။ "ကျွန်ုပ်သည် ဟဇရသ်မုဂျာဟစ်ဒ်()သခင်ကို လက်ထဲ၌ ရေးသားမှတ်တမ်းတင်ရန် သင်ပုန်းချပ်များနှင့်တကွ ဟဇရသ်အဗ္ဗဒုလ္လာဟ်ဗင်န်အဗ္ဗားစ်(ﷺ)အား ကုရ်အာန်ကျမ်းတော်မြတ်၏ သဖ်စိရ်နှင့်ပတ်သက်၍ မေးမြန်းနေသည်ကို တွေ့မြင်ခဲ့ရသည်။ ထိုအခါ ဟဇရသ်အဗ္ဗဒုလ္လာဟ်ဗင်န် အဗ္ဗားစ်(ﷺ) သခင်က ဟဇရသ်မုဂျာဟစ်ဒ်(ﷺ)အား "မိမိ၏ပြောပြချက်များကို ရေးသားမှတ်တမ်းတင်ပါ"ဟု မိန့်ကြားလေသည်။ ဤသို့ဖြင့် ဟဇရသ်မုဂျာဟစ်ဒ်(ﷺ)က ဟဇရသ်အဗ္ဗဒုလ္လာဟ်ဗင်န်အဗ္ဗားစ်(ﷺ)ကို ကုရ်အာန်ကျမ်းတော်မြတ် တစ်အုပ်လုံး၏ သဖ်စိရ်နှင့်ပတ်သက်၍ မေးမြန်းခဲ့လေသည်။


جدول المفسرين
في عهد النبي
محمد (ﷺ)
في عهد الصحابة
أشهر المفسرين
(١) الخلفاء الأربعة
(٢) عبد الله بن مسعود
(٣) أبي بن كعب
(٤) زيد بن ثابت وأبوسى الأشعري
(٥) عبد الله بن الزبير وعبد الله بن عباس (رضي الله عنهم)
في عهد التابعين
أشهر المفسرين
مدرسة المدينة
تلاميذ أبي بن كعب
(١) أبو العالية
(٢) محمد بن كعب القرظي
(٣) زيد بن أسلم
مدرسة مكة
تلاميذ ابن عباس
(١) سعيد بن جبير
(٢) عكرمة
(٣) طاؤوس بن كيسان اليماني
(٤) عطاء بن أبي رباح
(٥) أبو الشعثاء جابر بن زيد
مدرسة العراق
تلاميذ علي و عبد الله
(١) علقمة بن قيس
(٢) مسروق بن الأجدع
(٣) عطاء بن دينار الهذلي

## (၂) التَّفْسِيْرُ၊ ပညာရပ်၏ အရေးကြီးပုံ

အလ္လာဟ်အရှင်မြတ်သည် လူသားတို့ကို သူတို့နားလည်သဘောပေါက်သည့် ဘာသာစကားဖြင့်သာ မိန့်ကြားတော်မူလေသည်။ ထို့အတွက်ကြောင့်ပင် အလ္လာဟ်အရှင်မြတ်သခင်သည် နဗီတမန်တော်တိုင်းကို သူတို့မျိုးနွယ်တွင်းပြောဆိုသုံးစွဲသော ဘာသာစကားဖြင့်သာ (အလ္လာဟ်အရှင်မြတ်၏ အမိန့်ပညတ်တော်များကို) ရှင်းလင်းပြသပေးရန်စေလွှတ်တော်မူလေသည်။

ကုရ်အာန်ကျမ်းတော်မြတ်ကျရောက်ချိန် အရဗီဘာသာစကားသည် ဂုဏ်၊ရသ၊အလင်္ကာ အနုပညာတို့တွင် အထွတ်အထိပ်ကိုရောက်နေချိန်ဖြစ်သည်။ ထိုအချိန် ကျမ်းမြတ်ကုရ်အာန်သည် အရဗီဘာသာစကားဖြင့်သာ ကျရောက်ခဲ့သည်။ ထို့အတွက်ကြောင့် ယင်းခေတ်အခါရှိ အရဗ်လူမျိုးတို့သည် ကုရ်အာန်ကျမ်းတော်မြတ်၏ အပေါ်ယံသဘောတရားများနှင့် အမိန့်ပညတ်ချက်များကိုပါ ကောင်းစွာ သိနားလည်ကြပေသည်။

သို့သော် ကုရ်အာန်ကျမ်းတော်မြတ်၏ အတွင်းကျကျ အနုစိတ်သဘောတရားများကိုမူကား များသောအားဖြင့် သေချာစူးစမ်းလေ့လာပြီး ကိုယ်တော်မြတ်(ﷺ)ကို မေးမြန်းပြီးမှသာ သိရှိကြရပေသည်။ ဤသို့မေးမြန်းချက်များအနက် အချို့ကို ကုရ်အာန်ကျမ်းတော်မြတ်တွင် တွေ့ရှိနိုင်ပြီး အများစုကိုမူ ဟဒီးစ်ကျမ်းဂန်ကြီးများနှင့် သဖ်စိရ်ကျမ်းဂန်ကြီးများ၌သာ တွေ့ရှိနိုင်ပေသည်။

ထို့အတွက်ကြောင့် ကုရ်အာန်ကျမ်းတော်မြတ် ကျရောက်ခဲ့စဉ် ရှိခဲ့ကြသူများအတွက် ကျမ်းမြတ်ကုရ်အာန်ကို နားလည်းရန်သဘော ပေါက်ရန် လိုအပ်သည့်အရာများအား ကျွန်ုပ်တို့သည်လည်း လိုအပ်ပေသည်။ သို့သာမက ကျွန်ုပ်တို့သည် ထိုသူတို့ မလိုအပ်သည့်အရာများ ကိုပါ လိုအပ်ပေသည်။ အဘယ်ကြောင့်ဆိုသော် ကျွန်ုပ်တို့သည်သူတို့ ၏ မိခင်ဘာသာစကားဖြစ်သော အရဗီဘာသာစကားနှင့် ရင်းနှီးကျွမ်း ဝင်မှု နည်းပါးသောကြောင့် ဖြစ်သည်။

**(၃) أُصُوْلُ التَّفْسِيْرِ ပညာရပ်နှင့် ဖြစ်ပေါ်လာပုံသမိုင်း**

ကုရ်အာန်ကျမ်းတော်မြတ်၏ အဓိပ္ပာယ်များကို ထုတ်နုတ်ခြင်း နှင့် ယင်းမှမည်သို့မည်ပုံ အကျိုးခံစားရမည်ကို သိနားလည်ရန် လေ့လာ သည့် အခြေခံဥပဒေများအား أُصُوْلُ التَّفْسِيْرِ ဟု ခေါ်ဆိုပါသည်။

**أُصُوْلُ التَّفْسِيْرِ ပညာရပ်ဖြစ်ပေါ်လာပုံသမိုင်း**

ဤပညာရပ်သည် ကိုယ်တော်မြတ်(ﷺ) ခေတ်၊ ဆွဟာဗဟ် သာဝကကြီးများခေတ်၊ သာဗီအီးန်ကြီးများခေတ် စသည့်ခေတ်များက တည်းကပင် သဖ်စီရ်ပညာရပ်နှင့်အတူ တည်ရှိခဲ့ခြင်းမှာ သံသယဝင် ဖွယ်ကိစ္စရပ်မဟုတ်ပေ။ ထို့နောက်တွင် သဖ်စီရ်ကျမ်းဂန်များ များပြား လာသည်နှင့်အမျှ ယင်းပညာရပ်သည်လည်း သဖ်စီရ်ကျမ်းဂန်ကြီးများ တွင် ပူးတွဲ ဖော်ပြခြင်းခံခဲ့ရသည်။

❍ ဟာစ်ဂ်ျရီ (၂)ရာစုနှစ်တွင် أُصُوْلُ التَّفْسِيْرِ သည် သစ်ဆန်းသော အသွင်သဏ္ဍာန်ဖြင့် အီမာန်ရှာဖွိအီ(ﷺ)၏ "الرسالة" ကျမ်းနှင့် " أحكام القرآن" ကျမ်းတွင်ပါဝင်လာပေသည်။

❍ ဟာစ်ဂျရီ(၃)ရာစုနှစ်နှင့် (၄)ရာစုနှစ်တွင် أُصُوْلُ التَّفْسِيْرِ သည် أصول (ဥပဒေ)၊ اللغة (ဘာသာစကား)နှင့် သဖ်စီရ်ဆိုင်ရာ ကျမ်းဂန်ကြီးများတွင် သီးသန့်ပညာရပ်တစ်ခုအဖြစ် အခန်းကဏ္ဍပုံစံမျိုးဖြင့် ပါဝင်လာပေသည်။ အထက်ပါပုံစံမျိုးဖြင့် أُصُوْلُ التَّفْسِيْرِ အားထည့်သွင်းဖော်ပြထားသည့် ကျမ်းဂန်များမှာ...

❍ "تَأْوِيْلُ مُشْكِلِ الْقُرْآنِ" لِابْنِ قُتَيْبَةَ

❍ "جَامِعُ الْبَيَانِ" لِلْإِمَامِ الطَّبْرِيْ

❍ "أَحْكَامُ الْقُرْآنِ"لِلطَّحَاوِيْ

❍ "أَحْكَامُ الْقُرْآنِ" لِلْجَصَّاصِ တို့ဖြစ်ပါသည်။

❍ ဟာစ်ဂ်ျရီ (၅) ရာစုနှင့်နှင့် (၆)ရာစုနှစ်တွင် اللغة (ဘာသာစကား)၊ الفقه أصول(ဖေကဟ်သိပ္ပံ)၊ သဖ်စီရ်စသည့် ပညာရပ်များနှင့် ပတ်သက်သည့် ကျမ်းဂန်များ အမြောက်အမြား ပေါ်ပေါက်လာခဲ့သည်။ ယင်းကျမ်းဂန်အချို့မှာ-

"الْأَحْكَامُ" لِابْنِ حَزْمٍ ، "الْبُرْهَانُ" لِلْجُوَيْنِيْ "أصول الفقه" لِلسَّرَخْسِيْ စသည်တို့ဖြစ်ပါသည်။

❍ ဟစ်ဂျရီ (၇)ရာစုနှစ်နှင့် (၈)ရာစုနှစ်တွင် أصول ကဏ္ဍနှင့် ပတ်သက်၍ မြောက်မြားစွာသော ကျမ်းဂန်များပေါ်ထွန်းလာခဲ့ပေသည်။ ထို أصول ကဏ္ဍထဲတွင် أُصُوْلُ التَّفْسِيْرِ နှင့်ပတ်သက်သည့် ကျမ်းဂန်များလည်း များစွာပါဝင်လာပေသည်။ ၎င်းတို့မှာ–

❍ "الْبُرْهَانُ فِيْ عُلُوْمِ الْقُرْآنِ" لِلزَّرْكَشِيْ

❍ "الْمُقَدَّمَةُ فِيْ أُصُوْلِ التَّفْسِيْرِ" لِابْنِ تَيْمِيَّةَ

❍ "الْإِتْقَانُ فِيْ عُلُوْمِ الْقُرْآنِ" لِلسُّيُوْطِيْ စသည်တို့ဖြစ်ပါသည်။

နိဂုံးချုပ်အနေဖြင့်ဆိုရသော် နောက်ပိုင်းရာစုနှစ်များ၌ أُصُوْلُ التَّفْسِيْرِ ပညာရပ်သည် ကျယ်ပြန့်လာခဲ့သည်။

## (၄) أُصُوْلُ التَّفْسِيْرِ ပညာရပ်ဆိုင်ရာ အခြေခံသုတများ

### ၁။ ဖွင့်ဆိုချက်

ကုရ်အာန်ကျမ်းတော်မြတ်၏ အဓိပ္ပာယ်များကို ထုတ်နုတ်ခြင်းနှင့် ထိုအဓိပ္ပာယ်များမှ မည်သို့မည်ပုံ အကျိုးခံစားရမည်ကို သိနားလည်ရန် လေ့လာသည့် အခြေခံဥပဒေများအား أُصُوْلُ التَّفْسِيْرِ ဟုခေါ်ဆိုပါသည်။

### ၂။ အခြေခံအဓိကထားလေ့လာရမည့်အချက်

أُصُوْلُ التَّفْسِيْرِ ပညာရပ်သည် ကုရ်အာန်ကျမ်းတော်မြတ်၏ အခြေခံမှုနှင့်သက်ဆိုင်သည့် ကဏ္ဍအဝဝကို အဓိကထားလေ့လာသည့် ပညာရပ်ဖြစ်သည်။

### ၃။ အကျိုးရလဒ်

أُصُوْلُ التَّفْسِيْرِ ပညာရပ်ကို သင်ယူခြင်းဖြင့် ရရှိလာမည့် အကျိုးရလဒ်များမှာ–

(၁) ကုရ်အာန်ကျမ်းတော်မြတ်၏ အဓိပ္ပာယ်များကို ကောင်းစွာနားလည် သဘောပေါက်နိုင်ခြင်း။

(၂) ကုရ်အာန်ကျမ်းတော်မြတ်ရှိ အမိန့်ပညတ်များ၊ အမြော်အမြင်နှင့် ပြည့်စုံသော အလ္လာဟ်အရှင်မြတ်၏ လမ်းညွှန်ချက်များကို ကောက်နုတ်နိုင်ခြင်း။

(၃) التفسير နှင့်ပတ်သက်၍ လာရှိသည့် ဆင့်ပြန်ချက်များအနက်မှ ခေတ်ကာလနှင့် ကိုက်ညီသင့်လျှော်ဆုံးသော ဆင့်ပြန်ချက်ကို ရွေးချယ်နိုင်ခြင်း စသည်တို့ဖြစ်ပါသည်။

**၄။ ထွတ်မြတ်မှု**

أُصُوْلُ التَّفْسِيْرِ ပညာရပ်သည် ကုရ်အာန်ကျမ်းတော်မြတ်နှင့် ပတ်သက်ဆက်နွယ်နေသည့် ပညာရပ်ဖြစ်သောကြောင့် အလွန်ပင်မြင့်မြတ်လှသော ပညာရပ်များ အနက်မှ တစ်ခုပင် ဖြစ်ပေသည်။

**၅။ မှီငြမ်းကိုးကားချက်**

أُصُوْلُ التَّفْسِيْرِ ပညာရပ်ကို ပြုစုရာတွင် (၁) ကုရ်အာန်ကျမ်းတော်မြတ်၊ (၂) ဟဒီးစ်တော်များ၊ (၃) သဖ်စိရ်နှင့် ပတ်သက်၍ လာရှိသည့် ဆွဟာဗဟ်သာဝကကြီးများ၏ မိန့်ဆိုချက်များ၊ (၄) أصول الفقه ပညာရပ်၊ (၅) اللغة، البيان، النحو، الصرف အစရှိသည့် ပညာရပ်များ၊ (၆) علوم القرآن နှင့်ပတ်သက်သည့် ကျမ်းဂန်များကို ကိုးကားထားပါသည်။

**၆။ အမည်နာမ**

ဤပညာရပ်၏ အမည်မှာ **أُصُوْلُ التَّفْسِيْرِ** ဖြစ်ပါသည်။ ယင်းကို **قواعد التفسير** ဟူ၍လည်းခေါ်ဆိုကြသည်။

## ၇။ တရားတော်လာအမိန့်

أُصُوْلُ التَّفْسِيْرِ ပညာရပ်ကို သင်ယူခြင်းသည် فرض كفاية မိမိအရပ်ဒေသ၌ အချို့၏သင်ယူဆည်းပူးခြင်းကြောင့် အခြားသူများအပေါ်မှ တာဝန်ကျသွားသော အမိန့်ဖြစ်သည်။

**လေ့ကျင့်ခန်း**

၁။ التفسير ပညာရပ်ဆိုသည်မှာ အဘယ်နည်း။

၂။ التفسير ပညာရပ်၏ ဖြစ်ပေါ်လာပုံသမိုင်းကို အကျဉ်းချုံးဖော်ပြပါ။

၃။ التفسير ပညာရပ်၏ အရေးကြီးပုံကို ဖော်ပြပါ။

၄။ أصُوْلُ التَّفْسِيْرِ ဆိုသည်မှာ အဘယ်နည်း။ ထို့နောက် ၎င်းပညာရပ်ဖြစ်ပေါ်လာပုံ သမိုင်းအကျဉ်းကိုရေးပါ။

၅။ أُصُوْلُ التَّفْسِيْرِ ၏ ဖွင့်ဆိုချက်နှင့် အကျိုးရလဒ်ကိုရေးပါ။

## အခန်း(၂)

- القُرْآنُ ၏ အဓိပ္ပာယ်ဖွင့်ဆိုချက်
- القُرْآنُ ၏အမည်နာမများနှင့် ဝိသေသများ
- التَّفْسِيْرُوَالتَّأْوِيْلُ ၏အဓိပ္ပာယ်ဖွင့်ဆိုချက် နှင့် ယင်းတို့၏ကွာခြားချက်များ
- ကုရ်အာန်ကျမ်းတော်မြတ်တွင် ခြုံငုံပါဝင်နေသော ပညာရပ်ကြီး (၅) ပါး

## အခန်း (၂)

### (၁) ကုရ်အာန်ကျမ်းတော်မြတ်၏ အဓိပ္ပာယ်ဖွင့်ဆိုချက်

القُرْآنُ သည် قَرَأَ မှ ဖြစ်သည်။ القُرْآنُ သည်အရဗီစာပေအရ စုပေါင်းခြင်း၊ ဖတ်ရွတ်ခြင်းဟူ၍ ဖြစ်သည်။ ဤသို့အမည်ပေးရခြင်းမှာ ကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်ရွတ်ရာ၌ အက္ခရာများနှင့် စကားလုံးများကို ပေါင်းစပ်၍ ဖတ်ရွတ်ရသောကြောင့်ဖြစ်သည်။

ကုရ်အာန်ကျမ်းတော်မြတ်ကို ပညာရှင်ကြီးများက ဤသို့ဖွင့်ဆိုကြသည်။ "ကုရ်အာန်ဆိုသည်မှာ ကိုယ်တော်မြတ်(ﷺ) ထံသို့ ချပေးခြင်းခံရသော အလ္လာဟ်အရှင်မြတ်၏ မုက္ခပါဌ်တော်ဖြစ်ပြီး အေဗာဒသ်အနေဖြင့် ဖတ်ရွတ် သရဇ္ဈာယ်ပိုင်ခွင့်ရှိသည့်ကျမ်းဖြစ်သည်။"

**မှတ်ချက်။** ။ "အေဗာဒသ်အနေဖြင့် ဖတ်ရွတ်သရဇ္ဈာယ်ပိုင်ခွင့်ရှိသည်"ဟူသောအချက်၏ဆိုလိုရင်းမှာ နမားဇ်အတွင်း၌သော်လည်းကောင်း၊ နမားဇ်၏ပြင်ပ၌သော်လည်းကောင်း အလ္လာဟ်အရှင့်ဘက်တော်မှ ကုရ်အာန်ကျမ်းတော်မြတ်ကို အေဗာဒသ်အနေဖြင့် ဖတ်ရွတ်ရဇ္ဈာယ်ရန် မိန့်တော်မူထားခြင်းကို ဆိုလိုသည်။

### (၂) القُرْآنُ ၏အမည်နာမများနှင့် ဝိသေသများကဏ္ဍ

အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို များစွာသော အမည်နာမများဖြင့် မှည့်ထားပေသည်။ ၎င်းတို့မှာ-

၁။ القُرْآنُ , "إِنَّ هَذَا الْقُرْآنَ يَهْدِيْ لِلَّتِيْ هِيَ أَقْوَمُ" (الإسراء-٩)

"لَقَدْ أَنْزَلْنَا إِلَيْكُمْ كِتَابًا فِيْهِ ذِكْرُكُمْ" (الأنبياء-١٠) , الكِتَابُ ။၂

"تَبَارَكَ الَّذِيْ نَزَّلَ الْفُرْقَانَ عَلَى عَبْدِهِ لِيَكُوْنَ لِلْعَالَمِيْنَ نَذِيْرًا" (الفرقان-١) , الفُرْقَانُ ။၃

"وَإِنَّهُ لَتَنْزِيْلُ رَبِّ الْعَالَمِيْنَ" (الشعراء-١٩٢) , التَّنْزِيْلُ ။၄

၅။ الذِكْرُ , (الحجر-٩) "إِنَّا نَحْنُ نَزَّلْنَا الذِّكْرَ وَإِنَّا لَهُ لَحَافِظُوْنَ" တို့ဖြစ်ပါသည်။

ထို့နောက် ကုရ်အာန်ကျမ်းတော်မြတ်၏ ဝိသေသများမှာ– نُوْرٌ. هُدًى. شِفَاءٌ.

رَحْمَةٌ. مَوْعِظَةٌ. مُبَارَكٌ. مُبِيْن. بُشْرَى. عَزِيْزٌ. مَجِيْدٌ. بَشِيْرٌ. نَذِيْرٌ. တို့ဖြစ်ပါသည်။

**(၃) التَّفْسِيْرُوَالتَّأْوِيْلُ ၏အဓိပ္ပာယ်ဖွင့်ဆိုချက် နှင့် ယင်းတို့၏ကွာခြားချက်များကဏ္ဍ**

အရဗီစာပေ၌ التَّفْسِيْرُ ဆိုသည်မှာ....... မူရင်းပုဒ်ဖြစ်သည့် الفسر မှ ခွဲထွက်လာသော စာကားလုံးဖြစ်သည်။ ၎င်း၏ အဓိပ္ပာယ်မှာအရာတစ်ခုကို ရှင်းလင်းပြခြင်း၊ ဖုံးကွယ်နေသောအရာကို ပေါ်လွင်အောင်ပြုခြင် ဖြစ်သည်။

ထို့နောက် التَّأْوِيْلُ ဆိုသည်မှာ.......မူရင်းပုဒ်ဖြစ်သည့် الأول မှခွဲထွက်လာသော စကားလုံးဖြစ်သည်။ ထိုစာလုံး၏ အဓိပ္ပာယ်မှာ အာယသ်တော်ကပေးသည့် အဓိပ္ပာယ်များကို ၎င်းအာယသ်တော်ဘက်သို့ ပြန်လှည့်ပေးခြင်း။ ဆိုလိုသည်မှာ "အာယသ်တော်၏ မူရင်းအဓိပ္ပာယ်များကို ရှင်းလင်းပြသပေးခြင်း" ဖြစ်သည်။

ဟဇရသ်အဗူအိုဗိုင်ဒဟ်(ﷺ)နှင့် ပညာရှင်အဖွဲ့တစ်ဖွဲ့ကမူ "التَّفْسِيْرُ နှင့် التَّأْوِيْلُ သည် ကွာခြားမှုမရှိဘဲ အဓိပ္ပာယ်နှစ်ခု ဆင်တူသည်"

ဟု ဆိုထားကြပေသည်။ သို့သော် ဤအဆိုကို အခြားသောပညာရှင်များ က လက်မခံကြပေ။ ဤအကြောင်းအရာနှင့် ပတ်သက်၍ အကောင်းမွန်ဆုံးဆိုထားသူမှာ ပညာရှင်ကြီး الراغب الأصفهاني ပင်ဖြစ်သည်။ သူက မိမိ၏ သဖ်စိရ်ကျမ်းထဲတွင် ဤသို့ဆိုထားပေသည်။

○ التَّفْسِيْرُ၊ သည် အဓိပ္ပာယ်အရ التَّأْوِيْلُ၊ ထက်ပို၍ ကျယ်ပြန့်ပေသည်။ များသောအားဖြင့် التَّفْسِيْرُ၊ ကို စကားလုံးများအား ရှင်းပြသည့်နေရာ၌ အသုံးပြုပြီး التَّأْوِيْلُ၊ ကိုမူ အိပ်မက်ကဲ့သို့သော နာမ်သဘောဆောင်သည့်အရာများကို ရှင်းလင်းပြသသည့် နေရာတွင် အသုံးပြုသည်။

○ التَّأْوِيْلُ၊ အား ကောင်းကင်ကျကျမ်းများကို ရှင်းလင်းပြောဆိုသည့် နေရာတွင် အသုံးပြုပြီး التفسير၊ အား ကောင်းကင်ကျကျမ်းများအပြင် အခြားအရာများကိုပါ ရှင်းလင်းပြောဆိုသည့် နေရာတွင် အသုံးပြုပေသည်။

○ التَّفْسِيْرُ၊ ကို စကားလုံးများအား ရှင်းပြသည့်နေရာတွင် အသုံးပြု၍ التَّأْوِيْلُ၊ ကို ဝါကျများအား ရှင်းပြသည့်နေရာတွင် အသုံးပြုပေသည်။

**(၄) ကုရ်အာန်ကျမ်းတော်မြတ်တွင် ခြုံငုံပါဝင်နေသော ပညာရပ်ကြီး (၅) ပါး**

ကုရ်အာန်ကျမ်းတော်မြတ်တွင် ခြုံငုံပါဝင်နေသော ပညာရပ်ကြီး (၅) ပါးရှိသည်။ ၎င်းတို့မှာ–

(၁) **عِلْمُ الْأَحْكَامِ** ။ ။ အဧဗာဒဟ်၊ အပေးအယူ၊ ပတ်ဝန်းကျင်၊ အုပ်ချုပ်ရေးအစရှိသည့် ကဏ္ဍများနှင့်သက်ဆိုင်သော الواجب، الحرام، المكروه، المباح، المندوب အမိန့်ပညတ်တော်များဆိုင်ရာ ပညာရပ်။

(၂) **عِلْمُ الْجَدَلِ** ။ ။ ရဟူဒီ၊ နတ်စွဲရာနီ၊ မုရှရိက်၊ မိုနာဖစ်က်တို့ကို အထောက်အထားများဖြင့်အငြင်းအခုံပြုခြင်းဆိုင်ရာ ပညာရပ်။

(၃) **عِلْمُ التَّذْكِيْرِ بِآلَاءِ اللهِ** ။ ။ မိုးကောင်းကင်နှင့် မြေပထဝီကို ဖန်ဆင်းခြင်း၊ လူသားတို့လိုအပ်သည့်များကို အလ္လာဟ်အရှင့်ဘက်တော်မှအသိပေးခြင်း၊ အရှင်မြတ်၏ ဝိသေသများစသည်တို့ကို လူသားတို့အားရှင်းလင်းပြ သခြင်းဆိုင်ရာ ပညာရပ်။

(၄) **عِلْمُ التَّذْكِيْرِ بِأَيَّامِ اللهِ** ။ ။ နဗီတမန်တော်များနှင့် သူတို့၏မျိုးနွယ်တို့ကြားတွင် ဖြစ်ပျက်ခဲ့သည့်အ

ကြောင်းအရာများမှ အလ္လာဟ်အရှင်မြတ် အမိန့်နာခံသူကိုအရှင်မြတ်ဘက်မှ ချီမြှင့်မြှောက်စားခြင်းနှင့် အရှင့်အမိန့် ဖီဆန်သူကို အရှင့်ဘက်တော်မှ ပြစ်ဒဏ်ခတ်ခြင်းဆိုင်ရာ အကြောင်းအရာများကို ရှင်းလင်ဖော်ပြသည့် ပညာရပ်။

(၅) عِلْمُ التَّذْكِيْرِ بِالْمَوْتِ وَمَا بَعْدَ الْمَوْتِ ။ ။ ဂျန္နသ်၊ ဂျဟန္နမ်၊ ပြန်လည်ရှင်ပြန်ထရမည့်နေ့၊ စာရင်းအင်းစစ်ကြောခံရမည့်နေ့ အစရှိသော သေဆုံးပြီးနောက်ကြုံတွေ့ရမည့် အကြောင်းအရာများကို ရှင်းလင်းဖော်ပြသည့် ပညာရပ်။

ဟူ၍ ဖြစ်ပါသည်။

## လေ့ကျင့်ခန်း

၁။ ကုရ်အာန်၏ အဓိပ္ပာယ်ဖွင့်ဆိုချက်ကိုရေးပါ။

၂။ ကုရ်အာန်၏ အမည်နာမများနှင့် ဝိသေသများကို ရေးပါ။

၃။ التأويل နှင့် التفسير ကြားးကွာခြားချက်များကို ဖော်ပြပါ။

၄။ ကုရ်အာန်ကျမ်းတော်မြတ်တွင် ခြုံငုံပါဝင်သော ပညာရပ်ကြီး (၅)ခုကို အကျဉ်းချုံးဖော်ပြပါ။

## အခန်း(၃)

- الوَحْيُ ၏အဓိပ္ပာယ်ဖွင့်ဆိုချက်။
- အလ္လာဟ်အရှင့် ဘက်တော်မှ နဗီတမန်တော်များထံသို့ ချပေးသော ဝဟီ၏ အမျိုးအစားများ။

## အခန်း(၃)

### (၁) الوَحْيُ ၏ အဓိပ္ပာယ်ဖွင့်ဆိုချက်

الوَحْيُဆိုသည်မှာ အရဗီစာပေအရ

အမှတ်သင်္ကေတဖြင့်လည်းကောင်း၊ အမူအရာဖြင့်လည်းကောင်း၊ အသံဖြင့်လည်းကောင်း လျှင်မြန်စွာညွှန်ပြခြင်း ဟူ၍ဖြစ်သည်။

ရှရီအသ်ဆိုင်ရာ ဝေါဟာရအရ

အလ္လာဟ်အရှင့် ဘက်တော်မှ နဗီတမန်တော် တစ်ပါးပါးထံသို့ မိန့်ကြား ပြောဆိုတော်မူသော မိန့်ကြားချက်ကို "ဝဟီ"ဟု ခေါ်ဆိုသည်။

**(က) အလ္လာဟ်အရှင့် ဘက်တော်မှ နဗီတမန်တော်များထံသို့ချပေးသော ဝဟီ၏ အမျိုးအစားများ**

အလ္လာဟ်အရှင်မြတ်သည် မိမိရစူလ်စေတမန်များထံသို့ ဝဟီကို ပုံစံနှစ်မျိုးဖြင့် ပို့ချပေးတော်မူသည်။

**(၁) ကောင်းကင်တမန် ဟဇရသ်ဂျစ်ဗရီးလ်(ﷺ)ကို အကြောင်းခံ၍ ပို့ချပေးခြင်းပုံစံ**

**(၂) အကြောင်းခံမဲ့ ပို့ချပေးခြင်းပုံစံ**

ပထမအမျိုးအစား၌ "ဝဟီ" ပို့ချပေးခြင်းပုံစံ နှစ်မျိုးရှိပေသည်။

(က) ခေါင်းလောင်းသံထွက်ပေါ်ခြင်း

ကိုယ်တော်မြတ်(ﷺ)ထံသို့ ခေါင်းလောင်းသံအလား အသံတစ်ခု ရောက်ရှိလာခြင်းဖြစ်သည်။

(ခ) ကောင်းကင်တမန်သည် လူသားတစ်ဦးဦး၏ ရုပ်သွင်ဖြင့် ကိုယ်တော်မြတ်(ﷺ)ထံသို့ "ဝဟီ" လာရောက်ပို့ချခြင်း။

အထက်ပါ ပုံစံနှစ်မျိုးစလုံးကို ဟဇရသ်အာအေရှာဟ်(ﷺ)သခင်မ ဆင့်ပြန်သည့်ဟဒီးတော်တွင် ဖော်ပြထားပေသည်။ "ဟဇရသ်အာအေရှာဟ်(ﷺ)သခင်မက ဤသို့ ဆင့်ပြန်သည်။ တစ်ကြိမ်သောအခါက ဟဇရသ်ဟာရစ်ဗင်နိဟေရှမ်(ﷺ)သခင်သည် ကိုယ်တော်မြတ်(ﷺ)အား 'ကိုယ်တော့်ထံသို့ ဝဟီသည် မည်သို့ကျရောက်ပါသနည်း' ဟုမေးမြန်းခဲ့ရာ ကိုယ်တော်မြတ်(ﷺ)သခင်က ဤသို့ဖြေကြားလေသည်။ "တစ်ခါတစ်ရံ ဝဟီသည် ငါကိုယ်တော်မြတ်(ﷺ)ထံသို့ ခေါင်းလောင်းသံအလားအသံတစ်မျိုးဖြင့်ရောက်ရှိလေသည်။ ဤပုံစံဖြင့် ဝဟီကျရောက်ခြင်းသည် ငါကိုယ်တော်အဖို့ အလွန်ပင် ပြင်းထန်လှပေသည်။ ထိုသို့သောပို့ချမှု ပြီးဆုံးသွားချိန်တွင် ငါကိုယ်တော်မြတ်(ﷺ)သည် ဤအသံမှ ပို့ချခဲ့သည်တို့ကို အလွတ်မှတ်မိ၏။ ထို့နောက် တစ်ခါတစ်ရံတွင် ကောင်းကင်တမန်သည် အမျိုးသားတစ်ဦး၏ အသွင်ဆောင်၍ ရောက်ရှိလာကာ ငါကိုယ်တော်အား 'ဝဟီ' ပို့ချ၏။ သို့ရှိရာ ငါကိုယ်တော်မြတ်သည် သူ၏ ပို့ချချက်များကို အလွတ်ကျက်မှတ်လိုက်လေသည်။"

(မွတ်စ်လင်မ်ကျမ်း ဟဒီးစ်နံပါတ်-၂၃၃၃)

## (၂) အကြောင်းခံမဲ့ ပို့ချပေးသည့်ပုံစံ

ဤဒုတိယအမျိုးအစား၌လည်း ဝဟီပို့ချပေးခြင်းပုံစံ(၂)မျိုး ရှိပြန်သည်။

(က) မှန်ကန်သော အိပ်မက်မြင်မက်ခြင်း။

ဟာဇရသ် အာအေရှဟ်(ﷺ)သခင်မသည် ဤသို့ မိန့်ကြားတော်မူသည်။ “ကိုယ်တော်မြတ်(ﷺ)ထံသို့ ပထမဆုံး ဝဟီကျရောက်ခြင်းသည် အိပ်နေစဉ် မှန်ကန်သော အိပ်မက်များ မြင်မက်ခြင်းဖြစ်သည်။ သို့ရှိရာ ကိုယ်တော်မြတ်(ﷺ) မြင်မက်ခဲ့သမျှအိပ်မက်တိုင်းသည် နံနက်ခင်း ရောင်ခြည်ထွက်ပေါ်လာချိန် **(အရာအားလုံးကို ကွက်ကွက်ကွင်းကွင်း မြင်တွေ့ရ)**သကဲ့သို့ အမှန်တကယ်ဖြစ်ပေါ်လာခဲ့သည်။ **(ကုရ်အာန်ကျမ်းတော်မြတ်အတွင်း၌ ဝဟီကျရောက်သည့် အမျိုးအစားများအနက် ဤပုံစံဖြင့် ကျရောက်ခဲ့သော အာယသ် တစ်စိတ်တစ်ဒေသမျှ မရှိပေ။)**
(ခ) အကြောင်းခံတစ်စုံတစ်ရာမပါဘဲ အကွယ်မှ အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင် မိန့်ကြားတော်မူခြင်း။ ဤပုံစံဖြင့် အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူဆာ(ﷺ)ကို မိန့်ကြားတော်မူသကဲ့သို့ ကျွန်တော်တို့၏ ချစ်နဗီကြီးကိုလည်း မေ့အ်ရားဂ်ျညချမ်း၌ မိန့်ကြားတော်မူခဲ့လေသည်။

## လေ့ကျင့်ခန်း

၁။ ဝဟီ၏ အဓိပ္ပာယ်ဖွင့်ဆိုချက်ကို ရေးပါ။

၂။ ဝဟီအမျိုးအစား မည်မျှရှိပါသနည်း။ ယင်းတို့ကို အကျယ်အဝင့်ရေးပြပါ။

## အခန်း(၄) ကုရ်အာန်ကျမ်းတော်မြတ်အား ထိန်းသိမ်းစုစည်းခဲ့ခြင်းကဏ္ဍ

- ကိုယ်တော်မြတ် (ﷺ)ခေတ်၌ ကုရ်အာန်ကျမ်းတော်မြတ်အား ထိန်းသိမ်းစုစည်းခဲ့ပုံ
- ဟဇရသ်အဗူဗကရ်(رضي الله عنه) ခေတ်၌ ကုရ်အာန်ကျမ်းတော်မြတ်အား ထိန်းသိမ်းစုစည်းခဲ့ပုံ
- ဟဇရသ် အုသ္မာန်(رضي الله عنه) ခေတ်၌ ကုရ်အာန်ကျမ်းတော်မြတ်အား ထိန်းသိမ်းစုစည်းခဲ့ပုံ

## အခန်း(၄) ကုရ်အာန်ကျမ်းတော်မြတ်အား ထိန်းသိမ်းစုစည်းခဲ့ခြင်း ကဏ္ဍ

### (၁) ကိုယ်တော်မြတ်(ﷺ)ခေတ်၌ ကုရ်အာန်ကျမ်းတော်မြတ်အားထိန်းသိမ်းစုစည်းခဲ့ပုံ

ကိုယ်တော်မြတ်(ﷺ)ခေတ်၌ စူရဟ်အသီးသီးရှိ အာယသ်တော်အသီးသီးကို ကိုယ်တော်သခင်၏ လမ်းညွှန်ချက်ဖြင့် ဆွဟာဗဟ်သာဝကကြီးများက ရေးသားခြင်းဖြင့်သော်လည်းကောင်း၊ အလွတ်ကျက်မှတ် ခြင်းဖြင့်သော်လည်းကောင်း ထိန်းသိမ်းစုစည်းခဲ့သည်။ ထိုသို့ထိန်း သိမ်းစုစည်းရာတွင် ဆွဟာဗဟ်သာဝကကြီးများက ကိုယ်တော်မြတ်( ﷺ)ထံတော်ပါးမှ မိမိတို့ ကြားသိခဲ့ရသည့်အတိုင်း "၏၊ သည်" မလွဲ ထိန်းသိမ်းမှတ်တမ်းတင်ခဲ့သည်။ ကိုယ်တော်မြတ်(ﷺ)သည် မိမိထံသို့ ကျရောက်လာသော အာယသ်တော်တိုင်းကို ဆွဟာဗဟ်သာဝကကြီး များအား စနစ်တကျ သင်ကြားပို့ချပေးသည်။

ထိုပြင့် အာယသ်တစ်ခုခုကျရောက်တိုင်း ဟဇရသ်ဂျစ်ဗရီးလ်(عليه السلام)က ကိုယ်တော်မြတ်(ﷺ)ကို "ဤအာယသ်အား မည်သည့်စူရဟ် မည်သည့်အာယသ်၏ နောက်တွင် ရေးသားပါ" ဟူ၍ ပြောဆိုအသိပေးသကဲ့သို့ ကိုယ်တော်မြတ်(ﷺ)ကလည်း ဆွဟာဗဟ်သာဝကြီးများကို ဤအတိုင်းပြန်လည် သင်ကြားပေးခဲ့သည်။

ဆွဟာဗဟ်သာဝကကြီးများက အာယသ်တော်များကို ကိုယ်တော်မြတ်(ﷺ)သင်ပေးသည့် အစီအစဉ်အတိုင်း မိမိတို့၏ နေ့စဉ်ဖတ်

ရွတ်သရစ္စျာယ်သည့်ပမာဏအတိုင်းသော်လည်းကောင်း၊နမား၏အတွင်း၌ သော်လည်းကောင်း ဖတ်ရွတ်ကြသည်။

## (၂) ဟဇရတ်အဗူဗကရ်(ﷺ) ခေတ်၌ ကုရ်အာန်ကျမ်းတော်မြတ်အား ထိန်းသိမ်းစုစည်းခဲ့ပုံ

ကိုယ်တော်မြတ်(ﷺ)ခေတ်တွင် ဆွဟာဗဟ်ကြီးများသည် ကုရ်အာန်ကျမ်းတော်မြတ်ကို မိမိတို့၏ နှလုံးသည်းပွတ်၌ အစီအစဉ်အတိုင်း ကျက်မှတ်ထိန်းသိမ်းထားသော်လည်း ကျမ်းစာအုပ်တစ်အုပ် အသွင်ဖြင့် ရေးသားမှတ်တမ်းတင်ခြင်း မရှိခဲ့ပေ။ သို့သော် အပိုင်းလိုက်တစ်သီးတစ်ခြားစီမျိုးဖြင့်သာ ရေးသားမှတ်တမ်းတင်ခြင်း ရှိခဲ့ပေသည်။

ဟဇရတ်အဗူဗကရ်(ﷺ)က မိမိ၏ခေတ်တွင် ကုရ်အာန်ကျမ်းတော်မြတ်ကို အစီအစဉ်တကျ တစ်စုတစ်စည်းတည်းပုံစံဖြင့် ထိန်းသိမ်းခဲ့သည်။ ဤအချင်းအရာနှင့် ပတ်သက်၍ အေမာမ်ဗိုခါရီ(ﷺ)က ဟဇရတ်ဇိုက်ဒ်ဗင်န်ဆာဗစ်(ﷺ)ထံပါးမှ ဤသို့ ဆင့်ပြန်ခဲ့သည်။ “ဟဇရတ်ဇိုက်ဒ်(ﷺ)က ယခုလို အမိန့်ရှိသည်။ ‘ယမာမဟ်စစ်ပွဲပြီးဆုံးသည့်အခါ အဗူဗကရ်(ﷺ)သခင်က ကျွန်ုပ်ကို အစေလွှတ်၍ ဆင့်ခေါ်ခဲ့သည်။ ထို့ကြောင့် ကျွန်ုပ် သခင့်ထံသို့ရောက်ရှိသွားအခါ ဟဇရတ်အိုမရ်(ﷺ)သခင်လည်း ရှိနေကြောင်းတွေ့ရပေသည်။ ထိုအခါ ဟဇရတ်အဗူဗကရ်(ﷺ)က ကျွန်ုပ်အား–

‘အိုမရ်(ﷺ)သခင်သည် ငါ၏ထံသို့ လာရောက်၍ ဤသို့ပြောကြားသည်။’

'ယမာမဟ်စစ်ပွဲတွင် ကုရ်အာန်ကျမ်းတော်မြတ်အား အာဂုံဆောင်ထားသည့်ပုဂ္ဂိုလ်အမြောက်အမြား ရှဟီးဒ် ဖြစ်ခဲ့သည်။ အကယ်၍ ဤနည်းအတိုင်း နေရာအသီးသီးတွင် ကုရ်အာန်ကျမ်းမြတ်ကို အာဂုံဆောင်ထားသူများ ရှဟီးဒ်ဖြစ်ပါက မကြာမီတွင် ကုရ်အာန်၏များစွာသော အစိတ်အပိုင်းများ ပျောက်ကွယ်သွားမည်ကို ကျွန်ုပ် စိုးရိမ်မိသည်။ ထို့အတွက်ကြောင့် သမ္မတကြီးဘက်မှညွှန်ကြားချက်ဖြင့် ကျမ်းမြတ်ကုရ်အာန်စုစည်းရေးလုပ်ငန်းကို စတင်ဆောင်ရွက်ရန် ကျွန်ုပ်အကြံပြုလိုပါသည်ဟု လျှောက်ထားလာသည်။ ထိုအခါ ကျွန်တော်က အိုမရ်(ﷺ)သခင်ကို "တမန်တော်မြတ်ဆောင်ရွက်ခြင်းမရှိခဲ့သည့် အလုပ်ကို ကျွန်ုပ်မည်သို့ပြုလုပ်ရမည်နည်း?" ဟု ပြောကြားခဲ့သည်။ သို့သော်လည်း အိုမရ်(ﷺ)သခင်က "အလ္လာဟ်အရှင်မြတ်၏ ကစမ်၊ ဤလုပ်ရပ်သည် အကောင်းမွန်ဆုံးသော လုပ်ရပ်ပင်ဖြစ်သည်"ဟု ပြန်လည်ဖြေကြားလေသည်။ ထို့နောက် အိုမရ်(ﷺ)သခင်သည် ဤအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်ုပ်အား အကြိမ်ကြိမ်ပြောဆိုခဲ့ရာ အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်ကို ယင်းကိစ္စရပ်နှင့် ပတ်သက်၍ နားလည်သဘောပေါက်လာစေခဲ့သည်။ အဆုံးတွင် ကျွန်ုပ်၏အယူအဆသည်လည်း အိုမရ်(ﷺ)သခင်အယူအဆနှင့် တစ်ထပ်တည်းဖြစ်သွားခဲ့လေပြီ။

ဟဇရသ်ဇိုင်ဒ်(ﷺ)သခင်ကပြောကြားသည်မှာ – "ထို့နောက် အဗူဗကရ်(ﷺ)သခင်သည် ကျွန်ုပ်ကို ဤသို့ပြောကြားခဲ့သည်။ "အသင်သည် ငယ်ရွယ်နုပျိုပြီး အသိဉာဏ်ပညာကြွယ်ဝ သူတစ်ဦးလည်းဖြစ်

သည်။ ကျွန်ုပ်တို့သည် အသင်နှင့်ပတ်သက်၍ မကောင်းထင်မြင်ချက် ဟူ၍ မရှိခဲ့ပါ။ ထို့ပြင် အသင်သည် ကိုယ်တော်မြတ်(ﷺ)၏ ရှေ့မှောက်တွင် ဝဟီရေးမှတ်သည့်တာဝန်ကို ဆောင်ရွက်ခဲ့သူလည်းဖြစ်သည်။ ဤကဲ့သို့သော ဂုဏ်ထူးများ၊ အရည်အချင်းများကြောင့် အသင်သည် ကုရ်အာန်ကျမ်းတော်မြတ်၏ အာယသ်တော်များကို ရှာဖွေ စုစည်းပါလေ။”

ဟဇရသ်ဇိုက်ဒ်(ؓ)သခင်က အမိန့်ရှိသည်မှာ- “ အကယ်၍ ကျွန်ုပ်အား တောင်တစ်လုံးကို ရွှေ့ခိုင်းပါမူ ကျွန်ုပ်အတွက် ကုရ်အာန်စုစည်းရမည့်တာဝန်လောက် လေးလိမ့်မည် မဟုတ်ပေ။ ထို့ကြောင့် ကျွန်ုပ်က အဗူဗက်ရ်အသင်အား “အသင်သည် ကိုယ်တော်မြတ်(ﷺ) မလုပ်ဆောင်သည့် အလုပ်တစ်ခုကို မည်သို့လုပ်ဆောင်မည်နည်း”ဟုမေးမြန်းရာ ဟဇရသ်အဗူဗက်ရ်(ؓ)သခင်က “အလ္လာဟ်အရှင်မြတ်၏ ကစမ်၊ ဤလုပ်ရပ်သည် အလွန်ပင်ကောင်းမွန်သော လုပ်ရပ်ဖြစ်သည်” ဟု အဖြေပေးခဲ့သည်။

ထို့နောက် အဗူဗက်ရ်(ؓ)သခင်သည် ဤစကားရပ်ကို ကျွန်ုပ်အား အကြိမ်ကြိမ်ပြောဆိုနေခဲ့သည်။ နောက်ဆုံး၌ အလ္လာဟ်အရှင်မြတ်သည် ဟဇရသ်အဗူဗက်ရ်(ؓ)နှင့် ဟဇရသ်အိုမရ်(ؓ) သခင်တို့၏ နှလုံးသားကို ဖွင့်ပေးသကဲ့သို့ ကျွန်ုပ်၏ နှလုံးသားကိုလည်းဖွင့်ပေးခဲ့သည်။ ဤသို့ဖြင့် ကျွန်ုပ်သည် ကုရ်အာန်ကျမ်းတော်မြတ်၏ အာယသ်တော်များကို ရှာဖွေစုဆောင်းသည့်လုပ်ငန်းကို စတင်ဆောင်ရွက်ခဲ့ပါသည်။

စွန်ပလွံကိုင်းများ၊ ကျောက်ပြားများနှင့် လူတို့၏နှလုံးသည်းပွတ်များ ထဲတွင် မှတ်တမ်းတင်ထားသည့် ကျမ်းမြတ်ကုရ်အာန်ကို စုစည်းခဲ့ရ သည်။ ထိုသို့ဆောင်ရွက်ရာတွင် စူရဟ်သောင်ဗဟ်၏ နောက်ဆုံးအာ ယသ်ဖြစ်သည့် لقد جاءكم رسول من أنفسكم عزيز عليه ما )-التوبة:١٢٨ عنتم)ကို ဟဇရသ် အဗူခိုဇိုင်မဟ်အလ်အန်ဆွာရီ တစ်ပါးတည်းထံပါးမှ ရရှိခဲ့သည်။"

ဤသို့စုစည်းခဲ့သည့် ကုရ်အာန်ကျမ်းတော်မြတ်သည် ဟဇရသ် အဗူဗက်ရ်(ﷺ) သက်ရှိထင်ရှားရှိစဉ်ကာလ၌ သခင့်ထံပါးတွင် ရှိပြီး သခင်ကွယ်လွန်ဆုံးပါးသွားသောအခါ ဟဇရသ်အိုမရ်(ﷺ)သခင်ထံပါး၌ ရှိနေခဲ့သည်။ ထို့နောက် ဟဇရသ်အိုမရ်(ﷺ) ကွယ်လွန်သွားသောအခါ သခင်ကြီး၏သမီးတော် ဟဇရသ်ဟဖ်ဆွဟ်(ﷺ) သခင်မထံပါး၌ တည် ရှိခဲ့သည်။

**မှတ်ချက်။** ။ "စူရဟ်သောင်ဗဟ်၏ နောက်ဆုံးအာယသ်ဖြစ်သည့် – التوبة: ١٢٨ (لقد جاءكم رسول من أنفسكم عزيز عليه ما عنتم) ကို ဟဇရသ် အဗူခိုဇိုင်မဟ်အလ်အန်ဆွာရီ တစ်ပါးတည်းထံပါးမှ ရရှိခဲ့သည်။" ဆို သည့် ဟဇရသ်ဇိုက်ဒ်(ﷺ)သခင်၏ ဆိုလိုရင်းမှာ "အခြားသူ တစ်ဦး တစ်ယောက်ထံပါးတွင် ထိုအာယသ်တော်ကို ရေးသားမှတ်တမ်းတင် ထားသည့် ပုံစံဖြင့်မတွေ့ရှိခဲ့ရခြင်းကို ဆိုလိုသည်။ အဘယ့်ကြောင့် ဆိုသော် ဟဇရသ်ဇိုက်ဒ်(ﷺ)သခင်သည် ကုရ်အာန်ကျမ်းတော်မြတ်၏

အာယသ်တော်များကို စုစည်းရာ၌ အလွတ်ကျက်မှတ်ထားခြင်းနှင့် တကွ ရေးသားမှတ်တမ်းတင်ထားသည့်အာယသ်တော်ဖြစ်မှသာ လက်ခံအတည်ပြုသည့်အတွက် ကြောင့်ဖြစ်ပေသည်။”

ဟာဇရသ် ဇိုင်ဒ်(ﷺ)သခင်သည် ကျမ်းမြတ်ကုရ်အာန်ကို စုစည်းချိန် စည်းကမ်းချက်အချို့ သတ်မှတ်ခဲ့သည်။

**၁။** နှုတ်တိုက်ကျက်ထားရုံဖြင့် မလုံလောက်။ တစ်ခုခုပေါ်တွင် ရေးသားမှတ်တမ်းတင် ထားခြင်းမျိုးဖြစ်ရမည်။

**၂။** ဤသို့ရေးသားမှတ်တမ်းတင်ထားခြင်းမှန်ကန်ကြောင်း သက်သေနှစ်ဦးပြသနိုင်ရမည်။

**မှတ်ချက်။** ။ ဟာဇရသ်ခိုဇိုင်မဟ်(ﷺ) သခင်သည် ذو الشهادتين (သက်သေနှစ်ဦးကိုယ်စားရပ်တည်နိုင်သည့်) ဘွဲ့ကို ထူးထူးခြားခြား ရရှိပိုင်ဆိုင်ထားသောကြောင့် သခင်ကိုယ်တိုင်က သက်သေနှစ်ဦးကိုယ်စားရပ်တည်နိုင်ကာ သခင်ယူလာသော အာယသ်တော်ကို လက်ခံလိုက်ခြင်းဖြစ်သည်။)

**(၃) ဟာဇရသ် အွစ္စမားန်(ﷺ) ခေတ်၌ ကုရ်အာန်ကျမ်းတော်မြတ်အား ထိန်းသိမ်းစုစည်းခဲ့ပုံ**

ဟာဇရသ်အွစ္စမားန်(ﷺ)ခေတ်၌ ကျမ်းတော်မြတ်ကုရ်အာန်ကို စုစည်းခဲ့ပုံမှာ ဤသို့ဖြစ်သည်။ “ဟာဇရသ်အဗူဗက်ရ်(ﷺ)သခင် စုစည်းခဲ့သော ကျမ်းမြတ်ကုရ်အာန်မှ ပြန်လည်ကူးယူပြီး လူတို့ ကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်ရွတ်ရာ၌ ကွဲလွဲမှုမဖြစ်စေရန်နှင့် ကိုယ်တော်မြတ်

(ﷺ)ထံပါးမှ သဝါသွရ်(တိကျခိုင်လုံသောကွင်းဆက်)ပုံစံမျိုးဖြင့်မလာရှိသည့် ဖတ်နည်းများ ပါဝင်မှုမရှိစေရန် အက္ခရာများကို ခိုင်မာတိကျသည့် ပုံစံမျိုးဖြင့် ရေးသားမှတ်တမ်းတင်ခြင်းပင်ဖြစ်သည်။" ဤအကြောင်းအရာနှင့် ပတ်သက်၍ အေမာမ်ဗိုခါရီ(ﷺ)သည် ဟဇရသ်အနက်စ်ဗင်န်မာလစ်က်(ﷺ)ထံပါးမှ အောက်ပါအတိုင်း ဆင့်ပြန်ခဲ့သည်။ "ဟဇရသ်ဟိုဇိုင်ဖဟ်ဗင်န်ယမားန်(ﷺ)သခင်သည် အာမေနီးယားနှင့် အဇာဘိုင်ဂျန်ရှေ့တန်းဒေသတွင် သက်စွန့်ကြိုးပမ်းနေချိန်၌ ထိုဒေသရှိသူများသည် ကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်ရွတ်ရာ၌ အကွဲကွဲအလွဲလွဲဖြစ်နေသည်ကို တွေ့မြင်ခဲ့ရသည်။ သို့ရှိရာ သခင်ကြီးသည် မဒီနဟ်မြို့သို့ ပြန်ရောက်သောအခါ ဟဇရသ်အွစ္စမားန်ထံသို့ သွားရောက်၍ ဤသို့လျှောက်ထားလေသည်။ 'မုအ်မင်န်တို့၏ ခေါင်းဆောင်ကြီးခင်ဗျာ: ရဟူးဒ် နဆွ်ရာနီတို့ အတွင်း အကွဲအလွဲဖြစ်သကဲ့သို့ ဤအွမ္မသ်အတွင်းမှာလည်း အလ္လာဟ်အရှင်မြတ်၏ ကျမ်းတော်မြတ်နှင့် ပတ်သက်၍ အကွဲအလွဲများ မဖြစ်ပွားမီ ခေါင်းဆောင်ကြီးအနေနှင့် ဖြေရှင်းပေးပါ။ သို့ဖြစ်ပေရာ ဟဇရသ်အွစ္စမားန်(ﷺ)သခင်သည် ဟဖ်ဆွဟ်(ﷺ)သခင်မထံသို့ 'အသင်မထံပါး၌ရှိသော ကုရ်အာန်ကျမ်းစာမူကို ကျွန်ုပ်ထံပို့ပေးပါ။ ကျွန်ုပ်တို့သည် ဤစာမူမှ စာသားများကိုကူးယူပြီးလျှင် မူရင်းစာမူအား အသင်မထံသို့ပြန်လည် ပေးပါမည်' ဟုစေလွှတ်အကြောင်းကြားခဲ့သည်။ ထိုအခါ ဟဖ်ဆွဟ်(ﷺ)သခင်မက ကုရ်အာန်ကျမ်းတော်မြတ်၏မူရင်းစာမူကို ဟဇရသ်အစ္စမားန်(ﷺ)သခင်ထံသို့ ပို့ပေးခဲ့သည်။

ဟာဇရသ်အွစ္စမာၼ်(ﷺ)သခင်သည် 'အသင်တို့နှင့် ဇိုက်ဗင်န်ဆာဗစ်သ် ကြားတွင် ကုရ်အာန်ကျမ်းတော်မြတ်၏ အစိတ်အပိုင်းတစ်ခုကို (ဆိုလိုသည်မှာ စကားလုံးတစ်ခုကို)မည်သို့မည်ပုံရေးရမည်ဆိုသည်နှင့်ပတ်သက်၍ သဘောထားကွဲလွဲပါမူ ထိုအစိတ်အပိုင်းကို ကုရိုင်းရှ်တို့သုံးစွဲသည့်ဘာသာစကားနှင့် ကိုက်ညီသည့်ပုံစံဖြင့်သာ ရေးသားပါလေ။ အဘယ်ကြောင့်ဆိုသော် ကုရ်အာန်ကျမ်းတော်မြတ်သည် သူတို့၏ ဘာသာစကားဖြင့် ကျရောက်ခဲ့ခြင်းကြောင့်ဖြစ်သည်။' သို့ရှိရာ ထိုသာဝကကြီး(၄)ပါးသည် ကုရ်အာန်ကျမ်းတော်မြတ်ကို ဟာဇရသ်အွစ္စမာၼ်(ﷺ)သခင်တာဝန်ပေးသည့်အတိုင်း ကူးယူရေးသားခဲ့သည်။ ထို့နောက် ကုရ်အာန်ကျမ်းတော်မြတ်၏စာမူ အသီးသီး ကူးယူရေးသားပြီးသောအခါ အစ္စမာၼ်(ﷺ)သခင်က မူရင်းကုရ် အာန်စာမူကို ဟာဇရသ်ဟဖ်ဆွဟ်(ﷺ)သခင်မထံသို့ပြန်လည် ပေးပို့ခဲ့သည်။ ထို့ပြင် မိမိ ကူးယူခဲ့သော စာမူအသီးသီးကိုလည်း ကမ္ဘာအနှံ့သို့ပို့ ဆောင်ပေးပြီး ကိုယ်တော်မြတ်(ﷺ)ခေတ်အခါက တစ်ပိုင်တစ်နိုင်ရေး သားမှတ်တမ်းတင်ခဲ့သည့် ကုရ်အာန်စာမူများကိုမူ ဖတ်ရွတ်ရာ၌ အကွဲအလွဲမဖြစ်ရလေအောင် မီးရှို့ရန် မိန့်ကြားခဲ့လေသည်။ (ဗိုခါရီကျမ်း ဟဒီးစ်နံပါတ်-၉၇၄)

**ကုရ်အာန်ကျမ်းတော်မြတ်အား စုစည်းခဲ့ပုံများအကြား ကွာခြားချက်**

အိဗ္ဗနေ့သီးန်(ﷺ)နှင့် အခြားသောပညာရှင်များက ဖော်ပြပါ ခေတ်နှစ်ခေတ်၌ ကုရ်အာန်ကျမ်းတော်မြတ်အား စုစည်းခဲ့ပုံကြား ကွားခြားချက်ကို ဤသို့ မိန့်ဆိုကြလေသည်။ "ဟာဇရသ်အဗူဗက်ရ်(ﷺ)ခေတ်

၌ ကုရ်အာန်ကျမ်းတော်မြတ်ကို စုစည်းခဲ့ရခြင်းမှာ ဟာဖစ်ဇ်ဆွဟာဗဟ်ကြီးများ များစွာရှဟီးဒ်ဖြစ်ခြင်းကြောင့် ကုရ်အာန်ကျမ်းတော်မြတ်၏ အစိတ်အပိုင်းအချို့ ဆုံးရှုံးရမည်ကို စိုးရိမ်၍ စုစည်းခဲ့ရခြင်းဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် ထိုခေတ်အခါ၌ ကုရ်အာန်ကျမ်းတော်မြတ်တစ်အုပ်လုံး၏ စာမူများသည် တစ်နေရာတည်းတွင် တစ်စုတစ်စည်းတည်း မရှိသည့်အတွက်ကြောင့် စာမူအသီးသီးကို ကိုယ်တော်မြတ်(ﷺ)သင်ကြားပေးခဲ့သည့် အာယသ်တော်များ၏အစီအစဉ်အလိုက် တစ်နေရာထဲတွင် စုစည်းခဲ့ခြင်းဖြစ်သည်။

သို့သော် ဟဇရသ်အွစ္စမားန်(ﷺ)သခင်ခေတ်၌ ကုရ်အာန်ကျမ်းတော်မြတ်ကို စုစည်းခဲ့ရခြင်းမှာ လူတို့သည် ကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်ရွတ်ရာ၌ အကွဲအလွဲများ ဖြစ်သည့်အတွက်ကြောင့် ဖြစ်သည်။ ထိုသို့အကွဲအလွဲဖြစ်ရခြင်း၏ အကြောင်းအရင်းမှာ ကုရ်အာန်ကျမ်းတော်မြတ်သည် အက္ခရာခုနစ်ခုပုံစံမျိုး “အရဗ်တို့သုံးစွဲသည့် ဒေသသုံးအရဗီစာပေဟန်(၇)မျိုး” ဖြင့်ကျရောက်ခဲ့သည်။ သို့ရှိရာ လူတိုင်းသည် ထိုအက္ခရာခုနစ်ခုအနက်မှ မိမိကျွမ်းကျင်သော ဘာသာစကားဖြင့် ကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်ရွတ်ကြပေသည်။ ဤသို့ဖတ်ရွတ်ကြခြင်းကြောင့် အချင်းချင်းကြားတွင် အကွဲအလွဲများ ဖြစ်ကြပေသည်။ ထိုအကွဲအလွဲများသည် လူတို့ကြား၌ တစ်စတစ်စဖြင့် ကြီးထွားလာကာ မလိုလားအပ်သည့် ကိစ္စရပ်များပေါ်ပေါက်လာမည်ကို စိုးရိမ်၍ ဟဇရသ်အွစ္စမားန်(ﷺ)သခင်သည် လူတို့အား ကုရ်အာန်စာမူတစ်ခုတည်း

အပေါ်စုရုံးစေခဲ့သည်။ ထို့နောက် စူရဟ်များ၏ အစီအစဉ်များပါ ထည့်သွင်း၍ အက္ခရာခုနစ်ခုဖတ်နည်းအနက်မှ ဖတ်နည်းခြောက်မျိုးကို ပလပ်ပြီး ကူရိုင်ရှ်တို့၏ဘာသာစကားရပ်တစ်မျိုးတည်းဖြင့်သာ သတ်မှတ်ပေးခဲ့သည်။ ကုရ်အာန်ကျမ်းတော်မြတ်သည် ကူရိုင်းရှ်တို့၏ ဘာသာစကားဖြင့် ကျရောက်ခဲ့ခြင်းကြောင့်ဖြစ်သည်။ ထို့ပြင် ကုရ်အာန်ကျရောက်ခဲ့စဉ်က လူတို့အခက်အခဲမဖြစ်စေရန် အက္ခရာခုနစ်မျိုးဖြင့် ဖတ်ရွတ်ခွင့်ရှိသော်လည်း ဤအခက်အခဲများသည် ယခုအခါ၌ မရှိသည်သာမက ကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်နည်းတစ်မျိုးတည်းဖြင့် စုစည်းရန်ပါ အရေးကြီးလိုအပ်လာသည့်အတွက်ကြောင့် ဟဇရသ်အွစ္စမာန်း (ﷺ)သခင် သည် ဤသို့ပြုခဲ့ခြင်းဖြစ်သည်။

**လေ့ကျင့်ခန်း**

၁။ ကိုယ်တော်မြတ်(ﷺ) ခေတ်၌ ကုရ်အာန်ကျမ်းတော်မြတ်အား ထိန်းသိမ်းစုစည်းခဲ့ပုံကို ရေးပါ။

၂။ ဟဇရသ်အဗူဗက်ရ်(ﷺ)ခေတ်၌ ကုရ်အာန်ကျမ်းတော်မြတ်အား ထိန်းသိမ်းစုစည်းခဲ့ပုံကို ရေးပါ။

၃။ ဟဇရသ်အစ္စမားန်(ﷺ)ခေတ်၌ ကုရ်အာန်ကျမ်းတော်မြတ်အား ထိန်းသိမ်းစုစည်းခဲ့ပုံကို ရေးပါ။

၄။ ဟဇရသ်အဗူဗက်ရ်(ﷺ)ခေတ် ကုရ်အာန်ကျမ်းတော်မြတ်အား စုစည်းပုံနှင့် ဟဇရသ်အွစ္စမားန်(ﷺ)ခေတ် ကုရ်အာန်ကျမ်းတော်မြတ်အား စုစည်းပုံအကြား ကွာခြားချက်ကို ဖော်ပြပါ။

5၅။ ဟဇရသ်ဇိုင်ဒ်(ﷺ)သခင်သည် ကျမ်းမြတ်ကုရ်အာန်ကို စုစည်းချိန်၌ သတ်မှတ်ခဲ့သော အချို့ စည်းကမ်းချက်များကို ရေးပါ။

## အခန်း(၅)

### ဤအခန်းတွင် ကဏ္ဍခွဲ (၂) ခုရှိသည်။

### ကဏ္ဍခွဲ (၁)

- ပထမဦးဆုံးကျရောက်သည့် အာယသ်တော် ကဏ္ဍ
- ကုရ်အာန်ကျမ်းတော်မြတ်၏ အာယသ်တော်များနှင့် စူရဟ်များကြား အစီအစဉ်
- المَكِّيّ وَالمَدَنِيّ အာယသ်တော်များနှင့် ယင်းတို့၏ ထူးခြားချက်များ
- أَسْبَابُ النُّزُوْلِ အာယသ်တော်များ ကျရောက်ရခြင်း၏ အကြောင်းခံများ

### ကဏ္ဍခွဲ (၂)

- ကုရ်အာန်ကျမ်းတော်မြတ်ကို အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ချပေးခြင်းပုံစံနှစ်မျိုး
- المُحْكَمُ وَالْمُتَشَابِهُ ကဏ္ဍ
- نَسْخٌ နက်ဆ်ခ်၏ အခြေခံသဘောတရားနှင့် အမျိုးအစားများ
- ကုရ်အာန်ကျမ်းတော်မြတ်အတွင်းရှိ နက်ဆ်ခ်၏ပုံစံများ

## ကဏ္ဍခွဲ(၁)

## (၁) ပထမဦးဆုံးကျရောက်သည့် အာယသ်တော် ကဏ္ဍ

ပထမဦးဆုံးကျရောက်သည့် အာယသ်တော်နှင့်ပတ်သက်၍ ပညာရှင်များကြား၌ အကွဲအလွဲရှိပေသည်။ သို့သော် တိကျခိုင်မာသော အဆိုအရ ပထမဦးဆုံးကျရောက်သည့် အာယသ်တော်မှာ (اقرأ باسم ربك الذي خلق) العلق: ၁ ဖြစ်သည်။ ဤအကြောင်းအရာနှင့်ပတ်သက်၍ အေမာမ်ဗိုခါရီ(ﷺ)က ဟဇရသ်အာအေရှာဟ်(ﷺ)သခင်မထံပါးမှ ဤသို့ဆင့်ပြန်ခဲ့သည်။ "ကောင်းကင်တမန်သည် ကိုယ်တော်မြတ်(ﷺ)သခင် ဟေရာလိုင်ဂူ၌ရှိနေစဉ် ကိုယ်တော်မြတ်ထံပါးသို့ လာရောက်ခဲ့သည်။ ထို့နောက်မိန့်ကြားသည်မှာ اِقْرَأْ-(အသင်ဖတ်ရွတ်လော့) ဟူ၍မိန့်ကြားခဲ့သည်။ သို့ရှိရာ ကိုယ်တော်မြတ်(ﷺ)သခင်က 'ကျွန်ုပ်သည် ဖတ်ရွတ်တတ်သူမဟုတ်ပါ' ဟူ၍ပြန်လည်ဖြေကြားခဲ့သည်။ ထိုအခါ ကောင်းကင်တမန်ကြီးသည် ကိုယ်တော်မြတ်(ﷺ)ကို ဖက်ညှစ်ခဲ့သည်။ ထို့အတွက်ကြောင့် ကျွန်ုပ်သည် အလွန်မချိမဆန့်ဖြစ်ခဲ့ရပြီး (အားအင်ကုန်ခမ်း)ဖြစ်ခဲ့ရသည်။ ထို့နောက် ကောင်းကင်တမန်ကြီးသည် ကျွန်ုပ်ကိုလွှတ်ပေးပြီး 'ဖတ်ရွတ်လော့' ဟု တစ်ကြိမ်ထပ်မံ၍ ပြောပြန်သည်။ ကျွန်ုပ်ကလည်း 'ကျွန်ုပ်သည် ဖတ်ရွတ်တတ်သူမဟုတ်ပါ' ဟု ပြန်ဖြေခဲ့သည်။ သို့ရှိရာ ကောင်းကင်တမန်ကြီးသည် ကျွန်ုပ်ကို ထပ်မံဖက်ညှစ်ပြန်သည်။ ထို့ကြောင့် ကျွန်ုပ်သည် အလွန်ပင် မချိမဆန့်ခံစားရပြီး

(အားအင်ကုန်ခမ်း)ဖြစ်ခဲ့ရပြန်သည်။ ထို့နောက် ယင်းက ကျွန်ုပ်ကို ပြန်လွှတ်ပေးပြီးနောက် 'ဖတ်ရွတ်လေ့' ဟု ပြောပြန်ရာ 'ကျွန်ုပ်သည် ဖတ်တတ်ရွတ်သူမဟုတ်ပါ' ဟု ပြန်ပြောခဲ့သည်။ ထိုအခါ ကောင်းကင်တမန်ကြီးသည် ကျွန်ုပ်ကို တတိယအကြိမ် ထပ်မံ ဖက်ညှစ်ပြီးနောက် ပြန်လွှတ်ပေးခဲ့သည်။ ထို့နောက် ဤသို့မိန့်ကြားလေသည်။

(اقرأ باسم ربك الذي خلق، خلق الإنسان من علق، اقرأ وربك الأكرم) العلق: ١-٣

## (2၂) ကုရ်အာန်ကျမ်းတော်မြတ်၏ အာယသ်တော်များနှင့် စူရဟ်များကြား အစီအစဉ်

အာယသ်တော်များ၏ အစီအစဉ်သည် ဝဟီအရဖြစ်ကြောင်း မွတ်စ်လင်မ်ထုတစ်ရပ်လုံး တစ်ညီတစ်ညွတ်တည်း လက်ခံသဘောတူကြပေသည်။ အဘယ့်ကြောင့်ဆိုသော် ကုရ်အာန်၏ အစိတ်အပိုင်းတစ်ခုခု ကျရောက်တိုင်း ကိုယ်တော်မြတ်(ﷺ)သည် ဝဟီရေးသားမှတ်တမ်းတင်သော အချို့ဆွဟာဗဟ်များကိုခေါ်၍ ဤသို့မိန့်လေသည်။ "ဤအာယသ်တော်ကို မည်သည့်အကြောင်းအရာပါရှိသည့် စူရဟ်၏ မည်သည့်နေရာတွင် ရေးသားပါလေ" ဟူ၍ ဖြစ်သည်။

စူရဟ်များ၏ အစီအစဉ်နှင့်ပတ်သက်၍ ပညာ့ရှင်များကြားတွင် အကွဲအလွဲရှိပေသည်။ အချို့ပညာရှင်များက စူရဟ်များ၏ အစီအစဉ်သည် ဝဟီအရဖြစ်သည်ဟု ဆိုကြပြီး အချို့ပညာရှင်များကမူ စူရဟ်များ၏ အစီအစဉ်သည် ဆွဟာဗဟ်ကြီးများ၏ အိဂ်ျသိဟာဒ်(ကိုယ်တော်မြတ်(ﷺ)၏ သဘောတော်မှ ထုတ်နုတ်တင်ပြမှု)သာ ဖြစ်သည်ဟု ဆို

ကြပေသည်။ သို့သော် ဦးစားပေးရွေးချယ်ထားသည့်အဆိုအရ စူရဟ်များ၏ အစီအစဉ်သည်လည်း အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ချပေးသော ဝဟီအတိုင်းသာ ဖြစ်သည်။ ဤသည်နှင့်ပတ်သက်၍ လာရှိထားသော လက်ရှိကုရ်အာန်ကျမ်းတော်မြတ်၏ အစီအစဉ်၊ အေမာမ်ကြီးများ၏ မိန့်ဆိုချက်များနှင့် ဟဒီးတော်များက ပေါ်လွင်ထင်ရှားသော အထောက်အထားများပင် ဖြစ်သည်။

အီမာန်ကိရ်မာနီ(ﷺ)သည် အလ်ဗုရ်ဟာန်ကျမ်း၌ ဤသို့အမိန့်ရှိတော်မူထားသည်။ "ကျွန်ုပ်တို့မျက်မှောက်ရှိ စူရဟ်များ၏ အစီအစဉ်သည် အလ္လာဟ်အရှင်မြတ်၏ လောင်ပေမဟ်ဖူးဇ်တွင်ရှိသည့် အစီအစဉ်အတိုင်းပင်ဖြစ်သည်။ ဤအစီအစဉ်အတိုင်းပင် ကိုယ်တော်မြတ်(ﷺ)သည် မိမိထံကျရောက်ပြီးသည့် ကုရ်အာန်ကျမ်းတော်မြတ်၏ အာယသ်တော်များကို နှစ်စဉ် ဟဇရသ်ဂျစ်ဗရီလ်(ﷺ)ထံပါး၌ ဖတ်ရွတ်ပြသခဲ့သည်။ ထို့နောက် ကိုယ်တော်မြတ် ဝဖာသ်ဖြစ်မည့်နှစ်တွင် ကိုယ်တော်သခင်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို ဟဇရသ်ဂျစ်ဗရီလ်(ﷺ)ထံပါး၌ နှစ်ကြိမ်တိတိ ဖတ်ရွတ်ပြသခဲ့သည်။ (الإتقان :ص ١٣٧,١٣٨)

**(၃) المَكِّيُّ وَالْمَدَنِيُّ အာယသ်တော်များနှင့် ယင်းတို့၏ ထူးခြားချက်များ**

**مَكِّيٌّ** အာယသ်တော်များဆိုသည်မှာ ကိုယ်တော်မြတ်(ﷺ) ဟစ်ဂျရသ် မပြုမီကျရောက်ခဲ့သော အာယသ်တော်များကို ခေါ်ဆိုပြီး **مَدَنِيٌّ**

အာယသ်တော်များဆိုသည်မှာ ကိုယ်တော်မြတ်(ﷺ) ဟစ်ဂျ်ရသ်ပြု ပြီးနောက် ကျရောက်သည့် အာယသ်တော်များအား ခေါ်ဆိုပေသည်။

ယာဟ်ယာဗင်န် စလ္လားမ်(ﷺ)သခင်က ဤသို့ အမိန့်ရှိသည်။ " ကိုယ်တော်မြတ်(ﷺ) မဒီနဟ်မြို့သို့မရောက်ရှိမီ မဒီနဟ်သို့သွားရာလမ်း နှင့် မက္ကာဟ်၌ ကျရောက်ခဲ့သော အာယသ်တော်များသည် မက္ကီအာ ယသ်တော်များဖြစ်သည်။ ထို့နောက် ကိုယ်တော်မြတ်(ﷺ) မဒီနဟ်မြို့ သို့ရောက်ရှိပြီးနောက် ကိုယ်တော်မြတ်(ﷺ)၏ ခရီးစဉ်များ၌သော် လည်းကောင်း၊ မဒီနဟ်မြို့၌သော်လည်းကောင်း ကျရောက်သော အာ ယသ်တော်များမှာမူ မဒနီအာယသ်တော်များ ဖြစ်သည်။" (الإتقان ص:٢٢ النوع الأول في معرفة المكي والمدني)

**မက္ကီစူရဟ်များ၏ ထူးခြားချက်များ**

၁။ စဂျ်ဒဟ်အာယသ်တော်ပါရှိသည့် စူရဟ်တိုင်းသည် မက္ကီစူရဟ်ဖြစ် သည်။

၂။ (كَلَّا) ဆိုသည့် စကားလုံးပါရှိသည့် စူရဟ်တိုင်းသည် မက္ကီစူရဟ်ဖြစ် သည်။

၃။ سورة الحج မှအပ (يأيها الذين آمنوا) ဆိုသည့်ဝါကျမပါရှိဘဲ (يأيها الناس) ဆိုသည့်စာပုဒ်သာ ပါရှိသည့် စူရဟ်တိုင်းသည် မက္ကီစူရဟ်ဖြစ်သည်။

၄။ နဗီတမန်တော်များနှင့် လွန်လေပြီးသော အွမ္မသ်များ၏ အကြောင်း အရာများပါရှိသည့် စူရဟ်တိုင်းသည် မက္ကီစူရဟ်ဖြစ်သည်။

၅။ سورة البقرة မှအပ တမန်တော်အာဒမ်(ﷺ)နှင့် အီဗလီစ်(ရှိုင်သွာန်) အကြောင်းပါဝင်သည့် စူရဟ်တိုင်းသည် မက္ကီစူရဟ် ဖြစ်သည်။

၆။ (الم, الر,حم) ကဲ့သို့ အရဗီ ဗျည်းအက္ခရာများဖြင့် စသောစူရဟ်တိုင်းသည် မက္ကီစူရဟ်ဖြစ်သည်။

**မဒနီစူရဟ်များ၏ ထူးခြားချက်များ**

၁။ ဖရဇ်တာဝန်တစ်ခုခုကိုသော်လည်းကောင်း၊ ပြစ်ဒဏ်တစ်မျိုးမျိုးကိုသော်လည်းကောင်း ဖော်ပြထားသည့် စူရဟ်တိုင်းသည် မဒနီစူရဟ်ဖြစ်သည်။

၂။ سورة العنكبوت မှအပ မုနာဖိက်များအကြောင်းဖော်ပြထားသော စူရဟ်တိုင်းသည် မဒနီစူရဟ် ဖြစ်သည်။

၃။ ကောင်းကင်ကျ ကျမ်းဂန်များပိုင်ဆိုင်ထားသောသူများနှင့် အခြေအတင်ပြောဆိုထားသည့် အကြောင်းအရာပါဝင်သော စူရဟ်တိုင်းသည် မဒနီစူရဟ် ဖြစ်သည်။

**(၄) أَسْبَابُ النُّزُوْلِ အာယသ်တော်များ ကျရောက်ရခြင်း၏ အကြောင်းခံများ၊ နောက်ခံသမိုင်းများ**

ကုရ်အာန်ကျမ်းတော်မြတ်၏ အာယသ်တော်များသည် နှစ်မျိုးနှစ်စားရှိပေသည်။

❍ပထမတစ်မျိုးမှာ အလ္လာဟ်အရှင်မြတ်သည် မိမိ သဘောဆန္ဒတော်ဖြင့် ချပေးသော အာယသ်တော်ဖြစ်သည်။

❍ ဒုတိယတစ်မျိုးမှာ ဖြစ်ရပ်တစ်ခုခုကို အခြေခံ၍သော်လည်းကောင်း၊ မေးမြန်းလာသူတစ်ဦးတစ်ယောက်၏ မေးမြန်းမှုကို အကြောင်းခံ၍ သော်လည်းကောင်း၊ အခြေအနေနှင့်အချိန်အခါ၏လိုအပ်ချက်အားဖြင့် ဆည်းပေးခြင်းအားဖြင့်လည်းကောင်း အလ္လာဟ်အရှင်မြတ်ဘက်တော် မှ ချပေးသော အာယသ်တော်များပင်ဖြစ်သည်။ ထိုသို့သော နောက်ခံ အကြောင်းတရားများသည် သက်ဆိုင်ရာ အာယသ်တော်များကျရောက် ရခြင်း၏ အကြောင်းခံများဖြစ်သည်။ ဤသည်ကို သဖ်စိရ်ပညာရှင်များ က "أَسْبَابُ النزُوْلِ" ဟူ၍ ခေါ်ဆိုကြသည်။ အေမာမ်အလ်ဝါဟီဒီ(ﷺ)က ဤသို့ မိန့်ကြားတော်မူသည်။ "أَسْبَابُ النزُوْلِကို သိနားလည်ခြင်းမရှိသူ သည် ကုရ်အာန်ကျမ်းတော်မြတ်၏ အာယသ်တော်များကို သဖ်စိရ်ပြု ရန် မဖြစ်နိုင်ပေ။" (الإتقان ص:٧١)

**အာယသ်တော်သည် ကျရောက်ခြင်းအကြောင်းခံအတွက် သာလျှင်သီး သန့်မဖြစ်ပေ။**

အာယသ်တော်များတွင် လာရှိသည့် အမိန့်ပညတ်တိုင်းသည် أَسْبَابُ النزُوْلِ အာယသ်တော်ကျရောက်ရာ နောက်ခံအကြောင်းခံများနှင့် သာ သီးသန့်မဖြစ်ကြောင်းကို ပညာရှင်အများစုက တစ်ညီတစ်ညွတ် တည်း ဆိုထားကြပေသည်။ သို့သာမက ဤအာယသ်တော်တွင်ပါဝင် သည့် ကျင့်ရန်ကြဉ်ရန်များနှင့်သက်ဆိုင်သည့် ကဏ္ဍအလုံးစုံအတွက် အကျုံးဝင်ပေသည်။ ဤသည်ကို သဖ်စိရ်ပညာရှင်များက (إِنَّ الْعِبْرَةِ بِعُمُوْمِ

(اللَّفْظِ، لَا بِخُصُوْصِ السَّبَبِ) ဟူ၍ ပြောဆိုသုံးနှုန်းကြသည်။ အဓိပ္ပာယ်မှာ "အမိန့်ပညတ်ချက်အတည်ပြုခြင်းသည် ကျရောက်သည့် အကြောင်းခံ အပေါ်တွင်သာ မူတည်မှုမရှိဘဲ ဤအာယသ်တော်တွင် ပါဝင်သည့် ကျင့်ရန်ကြဉ်ရန်များနှင့်သက်ဆိုင်သည့် ကဏ္ဍအလုံးစုံအတွက် အကျုံးဝင်ပေသည်" ဟူ၍ဖြစ်သည်။ ပမာဆိုရသော် ဟဇရသ် အာဒအေရှာဟ်(ﷺ) သခင်မနှင့်ပတ်သက်၍ မဟုတ်မမှန် စွပ်စွဲသူများကို حَدُّ الْقَذْفِ (ကြိမ်ဒဏ် ၈၀) ပေးရန် ကုရ်အာန်ကျမ်းတော်မြတ်၌ လာရှိပေသည်။ သို့သော် ဤအမိန့်သည် သခင်မကြီးကို မဟုတ်မမှန်စွပ် စွဲပြောဆိုသူများအတွက်သာ သီးသန့်မဟုတ်ဘဲ သခင်မကြီးကဲ့သို့ မွန်မြတ်သော မုအ်မင်န် အမျိုးသမီးတစ်ဦးကို ဇေနာ(အိပ်ရာကျူးသည်)ဟု မဟုတ်မမှန်စွပ်စွဲသူတိုင်းအပေါ် ဖေါ်ပြပါအမိန့်ပညတ်သည် သက် ရောက်ပေသည်။

**ဆွဟာဗဟ်သာဝကကြီးများနှင့် သာဗီအီန်ကြီးများ၏ အလေ့အထတစ်ခု**

ဆွဟာဗဟ်ကြီးများနှင့် သာဗီအီန်တို့တွင် အလေ့အထတစ်ခုရှိသည်မှာ သူတို့သည် အာယသ်တစ်ခုကို သဖ်စီရ်ဖွင့်ဆိုသည့်အခါ "نَزَلَتْ هذِهِ الْآيَةُ فِيْ كَذَا" (ဤအာယသ်သည် မည်သည့်ကိစ္စနှင့်ပတ်သက်၍ ကျရောက်ခဲ့ခြင်းဖြစ်သည်) ဟူ၍ ပြောဆိုတတ်ကြသည်။ ဆွဟာဗဟ်သာဝကြီးများက ထိုသို့အမိန့်ရှိပါမူ ဤသည် အဓိပ္ပာယ်နှစ်မျိုးဖြစ်နိုင်ပေသည်။

❍ပထမတစ်မျိုးမှာ အာယသ်တော်၏အမိန့်ပညတ်အောက်တွင် ဤအကြောင်းအရာသည် အကျုံးဝင်ခြင်းကို ဆိုလိုသည်။

❍ဒုတိယတစ်မျိုးမှာ အာယသ်တော် ကျရောက်ခြင်းအကြောင်းခံကို ဆိုလိုခြင်းဖြစ်ပေသည်။

**ကဏ္ဍခွဲ (၂)**

**(၁) ကုရ်အာန်ကျမ်းတော်မြတ်ကို အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ချပေးခြင်းပုံစံနှစ်မျိုး**

အလ္လာဟ်အရှင်မြတ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို ဦးစွာပထမ လောင်ဟွလ်မဟ်ဖူးဇ်မှ မိုးကောင်းကင်ပထမထပ်ရှိ ဗိုင်သွလ်အဇ္ဇာဟ်သို့ တစ်ကြိမ်တည်း အပြီးအပြတ်ချပေးခဲ့သည်။ ထို့နောက်တွင် အရှင်မြတ်သည် ဗိုင်သွလ်အဇ္ဇာဟ်မှ ကိုယ်တော်မြတ်(ﷺ)ထံပါးသို့ ဖြစ်ပျက်နေသည့်အခြေအနေ၊ အကြောင်းအရာများကိုအခြေခံ၍ လိုအပ်လျှင် လိုအပ်သလောက် ၂၃ နှစ်တာ ကာလအတွင်း၌ချပေးတော်မူခဲ့လေသည်။ ဟဇရသ်အဗ္ဗဒွလ္လာဟ်ဗင်န်အဗ္ဗာစ်(رضي الله عنه) က ဤသို့မိန့်သည်။ “အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို ကဒရ်ညမြတ်၌ မိုးကောင်းကင် ပထမထပ်သို့ တစ်ကြိမ်တည်းအပြီးအပြတ် ချပေးတော်မူခဲ့လေသည်။ ထို့နောက်တွင် အလ္လာဟ်အရှင်မြတ်သည် ၂၃ နှစ်တာ ကာလအတွင်း လိုအပ်လျှင် လိုအပ်သလောက်ချပေးတော်မူခဲ့လေသည်။ ထို့နောက် ဟဇရသ် အိဗ်နေ့အဗ္ဗားစ်(رضي الله عنه)သ

ခင်သည် အောက်ဖော်ပြပါ အာယသ်တော်နှစ်အာယသ်ကို ဖတ်ရှုတ်တော်မူလေသည်။

**(وَلَا يَأْتُوْنَكَ بِمِثْلٍ إِلَّا جِئْنَاكَ بِالْحَقِّ وَأَحْسَنَ تَفْسِيْرًا –الفرقان:٣٣) (وَقُرْآنًا فَرَقْنَاهُ لِتَقْرَأَهُ عَلَى النَّاسِ عَلَى مُكْثٍ وَنَزَّلْنَاهُ تَنْزِيْلًا –الإسراء:١٠٦)** (مباحث في علوم القرآن ص:٨٦)

## (၂) **المُحْكَمُ وَالْمُشَابِهُ** ကဏ္ဍ

ကုရ်အာန်ကျမ်းတော်မြတ်တွင် ယေဘုယျအားဖြင့် အာယသ်တော်နှစ်မျိုးရှိပေသည်။ ပထမအမျိုးအစားမှာ အနက်အဓိပ္ပာယ်ထင်ရှားသော၊ ရည်ညွှန်းချက်ပေါ်လွင်သော၊ အနက်သဘောပြတ်သားသော၊ ယုံမှားသံသယကင်းသော မုက္ခပါင်္ဂတော် (**المُحْكَمُ**) ဖြစ်သည်။ ဒုတိယအမျိုးအစားမှာ ပုဒ်အားဖြင့်လည်းကောင်း၊ အနက်အဓိပ္ပာယ်အားဖြင့်လည်းကောင်း၊ အခြားမုက္ခပါင်္ဂတော်များနှင့် ဆင်တူယိုမှားဖြစ်နေသည့်အတွက် အနက်ဖွင့်ရန် ခဲယဉ်းသော မုက္ခပါင်္ဂတော် (**المُتَشَابِهُ**) ဖြစ် သည်။

**(هُوَ الَّذِيْ أَنْزَلَ عَلَيْكَ الْكِتَابَ مِنْهُ آيَاتٌ مُحْكَمَاتٌ هُنَّ أُمُّ الْكِتَابِ وَأُخَرُ مُتَشَابِهَاتٌ)-آل عمران:٧-**

"ထို အလ္လာဟ်အရှင်မြတ်သည် အသင့်အပေါ်ဝယ် ကျမ်းမြတ်ကုရ်အာန်ကို ထုတ်ပြန်ပို့ချတော်မူသော အရှင်ပင်တည်း။ ထိုကျမ်းမြတ်အနက်မပြောင်းမလွဲ ပေါ်လွင်ထင်ရှားပြတ်သား၍ အနက်အဓိပ္ပာယ် တစ်မျိုးတစ်စားတည်းထွက်သော အာယသ်တော်များလည်း ရှိပေ၏။ ယင်းအာယသ်တော်များသည်သာလျှင် ကုရ်အာန်ကျမ်းမြတ်၏ မူလအရင်းခံ အခြေအမြစ် ဖြစ်လေသည်။ ထို့ပြင်တဝ အခြား အာယသ်တော်များမှာမူ

ကား အဓိပ္ပာယ်များပြားသော၊ ဆင်တူယိုးမှား ဖြစ်သော အာယသ်တော်များလည်းရှိ၏။” (၃-၇)

**المُحْكَمُ နှင့် المُتَشَابِهُ ၏ဖွင့်ဆိုချက်**

المُحْكَمُ ၏ အဓိပ္ပာယ်မှာ (၂)မျိုးရှိပေသည်။

(က) "المُتَشَابِهُ" ၏အဓိပ္ပါယ်နှင့် ဆန့်ကျင်ဘက်ဖြစ်သော “မပြောင်းမလွဲ ပေါ်လွင်ထင်ရှားပြတ်သား၍ အနက်အဓိပ္ပာယ် တစ်မျိုးတစားတည်း ထွက်သော အာယသ်တော်များ”

(ခ) “တိကျခိုင်မာ၍ လျော့နည်းမှုမရှိခြင်း” ဤအဓိပ္ပာယ်ဖြင့် အောက်ဖော်ပြပါ အာယသ်တော်ကို အလ္လာဟ်အရှင်မြတ်သည် အမိန့်ရှိတော်မူထားပေသည်။ - هود:١– (الر، كِتَابٌ أُحْكِمَتْ آيَاتُهُ) “အလစ်ဖ်၊ လာမ်၊ ရာ။ ဤသည် အကြင်ကျမ်းဂန်တော်တစ်ဆူတည်း၊ ထိုကျမ်းဂန်၏ ‘အာယသ်’တော်များသည် မြဲမြံခိုင်ခံ့အောင်ပြုလုပ်ပြီး ဖြစ်ချေသည်။” ဤအဓိပ္ပာယ်အရ ကုရ်အာန်ကျမ်းတော်မြတ် တစ်အုပ်လုံးသည် " **المُحْكَمُ**" ပင်ဖြစ်သည်။

❍တစ်ခါတစ်ရံ "النَاسِخُ" အာယသ်တော်များကို " المُحْكَمُ " ဟူ၍လည်း ခေါ်ဆိုသုံးနှုန်းကြသည်။

**الْمُحْكَمُ နှင့် الْمُتَشَابِهُ တို့၏ အရေးကြီးပုံ**

အဗ္ဗနုဟတ်ဆွာရ် (ﷺ)က ဤသို့ ပြောကြားလေသည်။ "အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်၏ အာယသ်တော်များကို الْمُحْكَمُ နှင့် الْمُتَشَابِهُ ဟူ၍ အမျိုးအစားနှစ်မျိုးခွဲထားသည်။ ထို့နောက် အရှင်မြတ်သည် الْمُحْكَمُ နှင့်ပတ်သက်၍ ယင်းသည် ကုရ်အာန် ကျမ်းတော်မြတ်၏ မူလအရင်းခံ အခြေအမြစ်များဖြစ်သည်ဟု မိန့်ကြား တော်မူလေသည်။ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်၏ တားမြစ်ချက်များကို ရှောင်ကြဉ်ခြင်း၊ အရှင်မြတ်၏ အမိန့်ပညတ်ချက်များအားနာခံခြင်း၊ အရှင်မြတ်၏ ရစူလ်စေတမန်များကို ထောက်ခံခြင်းနှင့် အလ္လာဟ်အရှင်မြတ်အား အီမာန်သက်ဝင်ယုံကြည်ခြင်းဆိုင်ရာအကြောင်းအရာများသည် ထိုالْمُحْكَمُ အာယသ်တော်များဖြင့် အတည်ဖြစ်သည့်အတွက်ကြောင့်ဖြစ်သည်။ ဤရှုထောင့်အရ ထိုအာယသ် တော်များသည် ကုရ်အာန်ကျမ်းတော်မြတ်၏ မူလအရင်းခံ အခြေ အမြစ်များ ဖြစ်ကြပေသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်က "الْمُتَشَابِهُ အာယသ်တော်များ၏ နောက်လိုက်သူတို့သည် စိတ်နှလုံးတွင် သွေဖည်ယိုင်းယိမ်းမှုရှိသောသူများဖြစ်ကြသည်" ဟူ၍ မိန့်ကြားတော်မူလေသည်။ အဘယ့်ကြောင့်ဆိုသော် الْمُتَشَابِهُ အာယသ်တော်များ၏ နောက်လိုက်ကြသူများသည် الْمُحْكَمُ အာယသ်တော်များကို အပြည့်အဝယုံကြည်ရှေ့တန်းတင်မှု မရှိသည့်အတွက်ကြောင့်ဖြစ်သည်။ ထို့အ

တွက်ကြောင့်ပင် သူတို့၏ စိတ်သက်သာရာမှာ الْمُتَشَابِهُ အာယသ်တော်များ၏နောက် လိုက်စားခြင်းပင်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ အလိုတော်မှာ လူတို့သည် الْمُحْكَمُ အာယသ်တော်များနှင့်ပတ်သက်၍ မှန် ကန်တိကျစွာသိရှိပြီးနောက် ယုံကြည်ချက်ခိုင်မာလာရန်ဖြစ်သည်။ သို့မှသာ သူတို့သည် الْمُتَشَابِهُ အာယသ်တော်များနှင့်ပတ်သက်၍ ဤအာယသ်တော်များသည် အရှင်မြတ်ထံတော်ပါးမှ လာရှိကြောင်းအပြည့်အဝ ထောက်ခံနိုင်ပေမည်။

သို့သော် စိတ်နှလုံးတွင် သွေဖည်ယိမ်းယိုင်မှုရှိသူတို့က အလ္လာဟ်အရှင်မြတ်၏ အလိုနှင့်ဆန့်ကျင်၍ الْمُتَشَابِهُ အာယသ်တော်များကို ရှေ့တန်းတင်မှု ပြုကြသည်။ ထိုသူတို့နှင့်ပတ်သက်၍ ဟဇရသ် အာအေရှဟ်(ﷺ)သခင်မက ဤသို့ဆင့်ပြန်လေသည်။ "ကိုယ်တော်မြတ်(ﷺ)သည်

"هُوَ الَّذِيْ أَنْزَلَ عَلَيْكَ الْكِتَابَ مِنْهُ آيَاتٌ مُحْكَمَاتٌ هُنَّ أُمُّ الْكِتَابِ وَأُخَرُ مُتَشَابِهَاتٌ، فَأَمَّا الَّذِيْنَ فِيْ قُلُوْبِهِمْ زَيْغٌ فَيَتَّبِعُوْنَ مَا تَشَابَهَ مِنْهُ ابْتِغَاءَ الْفِتْنَةِ وَابْتِغَاءَ تَأْوِيْلِهِ" ဆိုသည့် အာယသ်တော်ကို အဆုံးထိဖတ်ရွတ်ပြီး မိန့်ကြားတော်မူသည်မှာ "အသင်တို့သည် الْمُتَشَابِهُ အာယသ်တော်များ၏ နောက်လိုက်သူများကိုတွေ့ရှိပါက ထိုသူတို့သည် အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင် (فَأَمَّا الَّذِيْنَ فِيْ قُلُوْبِهِمْ زَيْغٌ) ဟူ၍ အမည်ပေးထား သူများဖြစ်ကြောင်း သတိချပ်၍ ရှောင်ကြဉ်ကြလေကုန်။" (ဗိုခါရီကျမ်း ဟဒီးစ်နံပါတ်-၄၅၄၇)

**(၃) نَسْخٌ နတ်ဆ်ခ်၏ အခြေခံသဘောတရားနှင့် အမျိုးအစားများ**

အရဗီစာပေ၌ နတ်ဆ်ခ်၏ အဓိပ္ပာယ်မှာ
ဖျက်သိမ်းခြင်း၊ ပလပ်ခြင်း၊ ကူးယူဖော်ပြခြင်း ဟူ၍ ဖြစ်သည်။

ပညာရပ်ဆိုင်ရာ ဝေါဟာရအရ
"တရားဝင်ဥပဒေပြုနိုင်သည့်အထောက်အထားတစ်ခုဖြင့် တရားတော်လာ အမိန့်ပညတ်တစ်ခုအား ဖျက်သိမ်းလိုက်ခြင်း၊ ပြုပြင်ပြောင်းလဲခြင်း၊အစားထိုးခြင်း"ကို နတ်ဆ်ခ်ဟုခေါ်သည်။

**နတ်ဆ်ခ်ပိုင်ခြင်း၏တရားတော်လာ အထောက်အထား**

နတ်ဆက်ခ်ပိုင်ခြင်းနှင့် ပတ်သက်၍ မွတ်စ်လင်မ်ထုတစ်ရပ်လုံးသည် တစ်ညီတစ်ညွတ်တည်း လက်ခံထားကြပေသည်။ ထို့နောက် နတ်ဆ်ခ်သည် ကုရ်အာန်ကျမ်းတော်မြတ်၌လည်း ပါရှိပေသည်။ နက်ဆ်ခ်ပိုင်ခြင်း၏ အထောက်အထားမှာ အလ္လာဟ်အရှင်မြတ်၏ **(يَمْحُو اللّٰهُ مَايَشَاءُ وَيُثْبِتُ)** –الرعد:٣٩- ဆိုသည့် အာယသ်တော်ပင်ဖြစ်သည်။ ဤအာယသ်တော်နှင့် ပတ်သက်၍ ဟဇရသ်အဗ္ဗနုအဗ္ဗားစ်(ﷺ)သခင်နှင့် အခြားသော ပညာရှင်များက ဤသို့အမိန့်ရှိသည်။ "အလ္လာဟ် အရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်မှ မိမိအလိုရှိသည့် အမိန့် ပညတ်များကို ပလပ်ဖျက်သိမ်းတော်မူသည်။ ထို့နောက်တွင် အရှင်မြတ်သည် ပလပ်လိုက်သည့် ပညတ်တော်၏နေရာ၌ အစားထိုးအမိန့်တစ်ခုကို အလိုရှိတော်မူက ချပေးပြီး အလိုမရှိပါက ချပေးခြင်း မပြုပေ။"

အလ္လာဟ်အရှင်မြတ်ဘက်တော်မှ နက်ဆ်ခ်ပြုပေးရခြင်းမှာ လူသားတို့အတွက် လွယ်ကူစေရန်ဖြစ်သည်။ ထို့နောက် နက်ဆ်ခ်သည်လည်း လုပ်ဆောင်ရန် အမိန့်ပေးထားသည့် ပညတ်များနှင့် ရှောင်ကြဉ်ရန် တားမြစ်ထားသည့် အမိန့်ပညတ်များ၌သာ ဖြစ်နိုင်သည်။ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ လူသားတို့ကို သတိပေးခြိမ်းခြောက်ထားသည့် အာယသ်တော်များ၊ ကတိကဝတ်ပြုထားသည့် အာယသ်တော်များနှင့် သတင်းစကားများပေးထားသည့် အာယသ်တော်များ၌ နက်ဆ်ခ် လုံးဝ **လုံးဝ** မဖြစ်နိုင်ပေ။

**နတ်ဆ်ခ်၏ အမျိုးအစားများ**

နတ်ဆ်ခ်တွင် အမျိုးအစားလေးမျိုးရှိပါသည်။

၁။ ကုရ်အာန်အာယသ်ကို ကုရ်အာန်အာယသ်တော်ဖြင့် နတ်ဆ်ခ်ပြုခြင်း။

၂။ ကုရ်အာန်အာယသ်ကို ဟဒီးစ်ဖြင့် နက်ဆ်ခ်ပြုခြင်း။ ဤအမျိုးအစားတွင် အမျိုးကွဲ နှစ်မျိုးရှိပေသည်။

(က) ကုရ်အာန်အာယသ်ကို خَبَرُ الْآحَادِ (ဆင့်ပြန်သည့် လမ်းကြောင်းသည် သတ်မှတ်အရေ အတွက် အတိအကျရှိသော ဟဒီးစ်) ဖြင့် နတ်ဆ်ခ်ပြုခြင်း။ ဤနတ်ဆ်ခ်အမျိုးအစားနှင့် ပတ်သက်၍ ပညာရှင်များက တစ်ညီတစ်ညွတ်တည်း မပြုပိုင်ကြောင်းဆုံးဖြတ်ထားပေသည်။

(ခ) ကုရ်အာန်အာယသ်ကို الحَدِيْثُ الْمُتَوَاتِرُ ဖြင့် နတ်ဆ်ခ်ပြုခြင်း။ ဤပုံစံဖြင့် နက်ဆ်ခ်ပြုပိုင်ကြောင်း (ﷺ) الأئمة مالك، وأبو حنيفة، وأحمدတို့က မိန့်ဆိုထားပေသည်။ သို့သော် (ﷺ) الإمام الشافعي ထံပါး၌ ဤပုံစံဖြင့် နက်ဆ်ခ်ပြုခြင်း မပိုင်ပေ။

၃။ ကုရ်အာန်ကျမ်းတော်မြတ်ဖြင့် ဟဒီးစ်တော်အား နတ်ဆ်ခ်ပြုခြင်း။ ပညာရှင်အများစုထံပါး၌ ဤပုံစံနတ်ဆ်ခ်ပြုခြင်း ပိုင်ပေသည်။

၄။ ဟဒီးစ်တော်ကို ဟဒီးစ်တော်ဖြင့် နတ်ဆ်ခ်ပြုခြင်း။ ဤအမျိုးအစား၌ အမျိုးကွဲ (၄)မျိုး ရှိပေသည်။

(က)اَلْحَدِيْثُ الْمُتَوَاتِرُ ကို اَلْحَدِيْثُ الْمُتَوَاتِرُ ဖြင့် နတ်ဆ်ခ်ပြုခြင်း။

(ခ) خَبَرُ الْآحَادِ ကို خَبَرُ الْآحَادِ ဖြင့် နတ်ဆ်ခ်ပြုခြင်း။

(ဂ) خَبَرُ الْآحَادِ ကို اَلْحَدِيْثُ الْمُتَوَاتِرِ ဖြင့် နတ်ဆ်ခ်ပြုခြင်း။

(ဃ) اَلْحَدِيْثُ الْمُتَوَاتِرُ ကို خَبَرُ الْآحَادِ ဖြင့် နတ်ဆ်ခ်ပြုခြင်း။ ဖော်ပြခဲ့သည့်အမျိုးအစားများတွင် ပထမပုံစံ (၃) မျိုးသည် ပညာရှင်များထံပါး၌ ပြုပိုင်သော နတ်ဆ်ခ်ပြုနည်းများ ဖြစ်ကြသည်။ ထို့နောက် စတုတ္ထမြောက် ပုံစံ၌ ပညာရှင်များကြားတွင် အကွဲအလွဲရှိပေသည်။ ပညာရှင်အများစုကမူ ဤအမျိုးအစားဖြင့် နတ်ဆ်ခ် မပြုပိုင်ကြောင်း ဆိုထားကြပေသည်။

## (၄) ကုရ်အာန်ကျမ်းတော်မြတ်အတွင်းရှိ နတ်ဆ်ခ်၏ပုံစံများ

ကုရ်အာန်ကျမ်းတော်မြတ်အတွင်းရှိ နတ်ဆ်ခ်၏ပုံစံ (၃)မျိုးရှိပေသည်။ ၎င်းတို့မှာ-

၁။ အာယသ်တော်၏ သေလာဝသ် (ဖတ်ရွတ်သရဇ္ဈာယ်ခြင်း)နှင့် အမိန့်ပညတ် နှစ်ခုစလုံးကို ပလှပ်သည့်ပုံစံ။ ဥပမာ- နို့စို့ကလေးတစ်ဦးသည် အမျိုးသမီးတစ်ဦး၏ နို့ကို ဆယ်စုပ်စို့ယူပြီးပါက ထိုကလေးနှင့် အမျိုးသမီးသည် နို့တိုက်မိခင်တော်စပ်၍ နေကာဟ်ဟာရမ်ဖြစ်ခြင်းအကြောင်းအရာနှင့် သက်ဆိုင်သော အာယသ်တော်၏ သေလာဝသ်နှင့် အမိန့်ပညတ် နှစ်ခုစလုံးသည် ပလှပ်ခြင်းခံခဲ့ရသည်။

၂။ အာယသ်တော်၏ အမိန့်ပညတ်ချက်ကို ပလပ်ပြီး သေလာဝသ်အား ချန်ရှိထားသည့်ပုံစံ။ ဥပမာ-

" وَالَّذِيْنَ يُتَوَفَّوْنَ مِنكُمْ وَيذَرُوْنَ أَزْوَاجًا وَصِيَّةً لِأَزْوَاجِهِمْ مَتَاعًا اِلَى الْحَوْلِ غَيْرَ اِخْرَاجٍ" [البقرة: ١٤٠] ဖော်ပြပါ အာယသ်တော်သည် အမိန့်အရ ပလှပ်ခြင်းခံရပြီး သေလာဝသ်အရ ကျန်ရှိနေသော အာယသ်တော်ဖြစ်သည်။

၃။ အာယသ်တော်၏ သေလာဝသ်ကို ပလပ်ပြီး အမိန့်ပညတ်ချက်ကို ချန်ရှိထားသည့်ပုံစံ။ တို့ဖြစ်ပါသည်။ ဥပမာ-

" الشَيْخُ وَالشَّيْخَةُ إِذَا زَنَيَا فَارْجُمُوْهُمَا الْبَتَّةَ نَكَالًا مِنَ اللهِ وَاللهُ عَزِيْزٌ حَكِيْمٌ"

၎င်းအာယသ်တော်သည် သေလာဝသ်အရ ပလှပ်ခြင်းခံရပြီး အမိန့်အရ ကျန်ရှိနေသော အာယသ်တော်ဖြစ်သည်။

## လေ့ကျင့်ခန်း

### ကဏ္ဍခွဲ (၁)

၁။ ပထမဦးဆုံးကျရောက်သည့် အာယသ်တော်ကို ဖော်ပြပါ။

၂။ ကုရ်အာန်ကျမ်းတော်မြတ်၏ အာယသ်တော်များနှင့် စူရာဟ်များ အစီအစဉ်မှာ မည်သို့ပါနည်း။ အကျဉ်းချုံးဖော်ပြပါ။

၃။ المَكِّيُّ နှင့် المَدَنِيُّ အာယသ်တော်များဆိုသည်မှာ အဘယ်နည်း။

၄။ المَكِّيُّ အာယသ်တော်များ၏ ထူးခြားချက်များကို ဖော်ပြပါ။

၅။ المَدَنِيُّ အာယသ်တော်များ၏ ထူးခြားချက်များကို ဖော်ပြပါ။

၆။ أَسْبَابُ النُّزُوْلِ ဆိုသည်မှာ အဘယ်နည်း။

၇။ (إِنَّ الْعِبْرَةَ بِعُمُوْمِ اللَّفْظِ، لَا بِخُصُوْصِ السَّبَبِ) ၏ အလိုသဘောကို ရှင်းပြပါ။

၈။ "نَزَلَتْ هَذِهِ الآيَةُ فِيْ كَذَا" ၏အလိုသဘောကို ရှင်းပြပါ။

### ကဏ္ဍခွဲ (၂)

၁။ ကုရ်အာန်ကျမ်းတော်မြတ်ကို အလ္လာဟ်အရှင့်ဘက်တော်မှ ပုံစံ မည်မျှဖြင့် ချပေးခဲ့သနည်း။

၂။ المُحْكَمُ ၏ အမျိုးအစားများကို ဖော်ပြပါ။

၃။ نَسْخٌ ၏ အဓိပ္ပာယ်ဖွင့်ဆိုချက်နှင့် အမျိုးအစားများကို ရေးပါ။

၄။ ကုရ်အာန်ကျမ်းတော်မြတ်အတွင်းရှိ နက်ဆ်ခ် ပုံစံများကို ဥပမာနှင့်တကွ ရှင်းပြပါ။

## အခန်း(၆)

- إِعْجَازُ الْقُرْآنِ (ကုရ်အာန်ကျမ်းတော်မြတ်သည် မိုအ်ဂျေ ဇာဖြစ်ခြင်း ကဏ္ဍ)
- أَقْسَامُ الْقُرْآنِ (ကုရ်အာန်ကျမ်းတော်မြတ်အတွင်းရှိ(အလ္လာဟ် အရှင်မြတ်ကျိန်ဆိုထားသော)ကစမ်များ ကဏ္ဍ)
- قَصَصُ الْقُرْآنِ (ကုရ်အာန်ကျမ်းတော်မြတ်အတွင်းရှိလွန်လေပြီး သော နဗီတမန်တော်များနှင့် အွမ္မသ်များ၏အကြောင်းအ ရာများကဏ္ဍ)

## အခန်း(၆)

### (၁) إِعْجَازُ الْقُرْآنِ (ကုရ်အာန်ကျမ်းတော်မြတ်သည် မိုအ်ဂျဇာ လူသားတို့တုရ၍ မဖန်တီးနိုင်သောအရာ ဖြစ်ခြင်း ကဏ္ဍ)

"وَقَالُوْا لَوْلَا أُنْزِلَ عَلَيْهِ آيَاتٌ مِنْ رَبِّهِ قُلْ إِنَّمَا الْآيَاتُ عِنْدَ اللهِ وَإِنَّمَا أَنَا نَذِيْرٌ مُبِيْنٌ، أَوَلَمْ يَكْفِهِمْ أَنَّا أَنْزَلْنَا عَلَيْكَ الْكِتَابَ يُتْلَى عَلَيْهِمْ" (العنكبوت : ٥٠،٥١)

“ထိုမှတစ်ပါး သူတို့က “အဘယ်ကြောင့် ဤ(တမန်တော်)၏ အပေါ်၌ သက်သေလက္ခဏာများ ကျရောက်လာခြင်း မရှိပါသနည်း”ဟု ပြောဆိုကြကုန်၏။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား) ပြောကြားပါလေ၊ (အချင်းတို့) သက်သေလက္ခဏာများသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိကုန်၏။ စင်စစ်မှာကား ငါသည် ထင်ရှားစွာ သတိပေးနှိုးဆော်သူ တစ်ဦးမျှသာ ဖြစ်ပေသည်။ ငါအရှင်မြတ်သည် ၎င်းတို့၏ရှေ့ဝယ်ဖတ်ကြားခြင်းခံရလျက်ရှိသော (ကုရ်အာန်)ကျမ်းမြတ်ကို အသင့်အပေါ်၌ ချပေးသနားတော်မူခဲ့ခြင်းသည်ပင်လျှင် ၎င်းတို့အဖို့ လုံလောက်ပြီမဟုတ်လော။”

ဖော်ပြပါအာယသ်တော်၌ အလ္လာဟ်အရှင်မြတ်က ကျမ်းတော်မြတ်ကုရ်အာန်သည် အလ္လာဟ်အရှင်တစ်ပါးတည်း တည်ရှိကြောင်း အထောက်အထားများအနက်မှ အထောက်အထားတစ်ခုဖြစ်သည်”ဟူ၍ မိန့်ကြားတော်မူထားပေသည်။

ထို့နောက် အရှင်မြတ်သည် မိမိအား သွေးဖည်ငြင်းဆန်သူတို့ကို ကုရ်အာန်ကျမ်းတော်မြတ်နှင့်အလားတူ ကျမ်းဂန်တစ်အုပ်ယူဆောင် လာရန် ဤသို့မိန့်ကြားတော်မူလေသည်။

"فَلْيَأْتُوْا بِحَدِيْثٍ مِثْلِهِ إِنْ كَانُوْا صَادِقِيْنَ" (الطور:٣٤) "သို့ဖြစ်လျှင် အကယ်၍ ၎င်းတို့သည် သစ္စာဝါဒီများဖြစ်ကြလျှင် ယင်း(ကုရ်အာန်ကျမ်းမြတ်)ကဲ့သို့သော အာယသ်တော်တစ်စုံတစ်ရာကို ၎င်းတို့ယူဆောင်၍ လာကြရမည်။"

ထို့နောက် အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်ရှိ စူရာဟ်များကဲ့သို့ လီဆယ်ဖန်တီးထားသော စူရာဟ်ဆယ်ခုကို ယူဆောင်လာကြရန် ၎င်းတို့အား ထပ်မံစိန်ခေါ်သမှု ပြုလိုက်လေသည်။

"أَمْ يَقُوْلُوْنَ افْتَرَاهُ قُلْ فَأْتُوْا بِعَشْرِ سُوَرٍ مِثْلِهِ مُفْتَرَيَاتٍ وَادْعُوْا مَنِ اسْتَطَعْتُمْ مِنْ دُوْنِ اللهِ إِنْ كُنْتُمْ صَادِقِيْنَ، فَإِنْ لَمْ يَسْتَجِيْبُوْا لَكُمْ فَاعْلَمُوْا أَنَّمَا أُنْزِلَ بِعِلْمِ اللهِ" (الهود :١٣،١٤)

"၎င်းတို့က ယင်း(နဗီတမန်တော်)သည် ထို(ကုရ်အာန်)ကို လီဆယ်ဖန်တီးခဲ့သည်ဟု ပြောဆိုကြလေသလော။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား) 'သို့ဖြစ်လျှင် အသင်တို့သည် ထိုကုရ်အာန်ကျမ်းလာ' 'စူရဟ်' ကဏ္ဍကဲ့သို့ လီဆယ်ဖန်တီးထားသော စူရဟ် ကဏ္ဍဆယ်ခုကိုပင် ယူဆောင်ခဲ့ကြလေကုန်။ ၎င်းပြင် အကယ်၍ အသင်တို့သည် သစ္စာဝါဒီမှန်ကန်စွာပြောဆိုသူများ ဖြစ်ကြပါလျှင် အလ္လာဟ်အရှင်မြတ်မှတစ်ပါး မိမိတို့ တက်စွမ်းနိုင်သောအရာများကိုလည်း အသင်တို့ ခေါ်ခဲ့ကြလေကုန်'ဟု ပြောကြားပါလေ။ တစ်ဖန် အကယ်၍ ၎င်းတို့သည်

အသင်တို့(ပြောဆိုကြသည်)ကို ဖြေဆိုခြင်း မပြုခဲ့ကြပါလျှင် (ဤကုရ်အာန်ကျမ်းတော်မြတ်သည်) အလ္လာဟ်အရှင်မြတ်၏ အသိပညာဖြင့် ချပေးသနားတော်မူခြင်း ခံခဲ့ရသည်သာလျှင် ဖြစ်ကြောင်းကို အသင်တို့ ကောင်းစွာ ယုံကြည်ကြလေကုန်။”

သူတို့သည် အလ္လာဟ်အရှင်မြတ် စိန်ခေါ်သမှုပြုထားသည်ကို အဖြေမပေးနိုင်သောအခါ အရှင်မြတ်က ကုရ်အာန်ကျမ်းတော်မြတ်လာ စူရာဟ်တစ်စူရာဟ်ကဲ့သို့ အလားတူ လီဆယ်ဖန်တီထားသော စူရာဟ်တစ်စူရာဟ်ကို ယူဆောင်လာရန် ထပ်မံစိန်ခေါ်သမှု ပြုလိုက်လေသည်။ "أَمْ يَقُوْلُوْنَ افْتَرَاهُ قُلْ فَأْتُوْا بِسُوْرَةٍ مِثْلِهِ" (يونس :٣٨) သူတို့က “ထို(နဗီတမန်တော်မုဟမ္မဒ်)သည် ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို လီဆယ်ဖန်တီးခဲ့သည်” ဟုပြောဆိုကြလေသလော။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့ပြောကြားပါလေ။ (အချင်းတို့) “သို့ဖြစ်လျှင် အသင်တို့သည် ယင်း(ကုရ်အာန်ကျမ်းတော်မြတ်ကဏ္ဍ)နှင့်တူသော ကဏ္ဍတစ်ခုကိုပင် (သီကုံးရေးသား၍ ယူဆောင်လာခဲ့ကြလေကုန်။”

သို့ရာတွင် သူတို့ထဲ၌ တရားဟောဆရာများ ကဗျာလင်္ကာ တတ်ကျွမ်းသူတို့ အမြောက်အမြားရှိနေသော်ငြားလည်း အလ္လာဟ်အရှင်မြတ်၏ စိန်ခေါ်မှုကို အဖြေမပေးနိုင်ကြသည့်အတွက်ကြောင့် အရှင်မြတ်က ကုရ်အာန်ကျမ်းတော်မြတ်သည် မုအ်ဂျေဇာ(လူသား

တို့တု၍ မဖန်တီးနိုင်သောအရာ) ဖြစ်ကြောင်းကို ဤသို့ ကြေညာတော်မူလိုက်လေသည်။

**"قُلْ لَئِنِ اجْتَمَعَتِ الْإِنْسُ وَالْجِنُّ عَلَى أَنْ يَأْتُوْا بِمِثْلِ هَذَا الْقُرْآنِ لَا يَأْتُوْنَ بِمِثْلِهِ وَلَوْ كَانَ بَعْضُهُمْ لِبَعْضٍ ظَهِيْرًا" (الإسراء :٨٨)**

"(အို–နဗီတမန်တော်) အသင်သည် (ဤသို့) ပြောကြားပါလေ။ (အချင်းတို့) စင်စစ်အကယ်၍ လူသားအပေါင်းတို့သည်လည်းကောင်း၊ ဂျင်န်အပေါင်းတို့သည်လည်းကောင်း၊ ဤကုရ်အာန်ကျမ်းတော်မြတ်နှင့်အတူကျမ်းကို (သီကုံးရေးသား၍) ယူလာရန် စုရုံးကြပြီးလျှင် တစ်ဦးကိုတစ်ဦး ကူညီရိုင်းပင်းခဲ့ငြားလည်း၊ ၎င်းတို့သည် ယင်းကုရ်အာန်ကျမ်းတော်မြတ်နှင့် တူသောကျမ်းကို (သီကုံးရေးသား)ယူဆောင်လာနိုင်မည် အလျှင်းမဟုတ်ပေ။"

## ကုရ်အာန်ကျမ်းတော်မြတ် မုအ်ဂျေဇာဖြစ်ပုံ

ပညာရှင်ကြီး အဗ္ဗနုအာသ္ဂီယာ(ﷺ) က မိန့်ကြားသည်။ "ကုရ်အာန်ကဲ့သို့သော ကျမ်းဂန်ကိုယူဆောင်လာရန် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ စိန်ခေါ်သမှုပြုခြင်း၏ ဆိုလိုရင်းမှာ ကုရ်အာန်ကဲ့သို့ သီကုံးမှု၊ဖွဲ့စည်းတည်ဆောက်မှုအရလည်းကောင်း၊ အဓိပ္ပာယ်များမှန်ကန်တိကျမှုရှိသည့် ရှုထောင့်အရလည်းကောင်း၊ အရဗီစာပေအရ လက်ခံမြောက်သည့်စကားလုံးများကို စဉ်ဆက်မပြတ် အသုံးပြုထားသည့်ကဏ္ဍ အရလည်းကောင်း တူဆင်သည့်ကျမ်းဂန်ကို ယူဆောင်လာရန်ဆိုလို ခြင်းဖြစ်သည်။" ဤသည်သာကျွမ်းကျင်ပညာရှင်အများစုက

လက်ခံထားသော အဆိုပင်ဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်၏အသိသည် အရာအားလုံးကို လွှမ်းခြုံထားသော ကြောင့် ကုရ်အာန်ကျမ်းတော်မြတ်၏ စကားလုံးတစ်လုံးလာရှိပြီး နောက် ထိုစကားလုံး၏နောက်တွင် မည်သည့်စကားလုံးလာရှိရန် အ ထိုက်သက်ဆုံးဖြစ်သည်ကို အရှင်မြတ်မှအပ အခြားမည်သူတစ်ဦးတစ် ယောက်မျှ အရှင့်ထက်ပို၍ မသိရှိနိုင်ပေ။ ထို့ပြင် အဓိပ္ပာယ်သဘော တရားတစ်ခုပြီးနောက် မည်သည့် အဓိပ္ပာယ်သဘောသဘောတရား တစ်ခုခု လာသင့်သည်ကို အရှင်တစ်ပါးတည်းသာ အသိရှိဆုံးဖြစ်ပေ သည်။ ထို့ကြောင့် ကုရ်အာန်ကျမ်းတော် မြတ်တစ်အုပ်လုံးသည် စလယ် ဆုံး ချို့ယွင်းချက်အပေါင်းမှ ကင်းစင်နေပေသည်။ အခြားတစ်ဖက်တွင် မူ လူသားသည် မေ့လျော့ခြင်း၊ အသိ ဉာဏ်ပညာနည်းပါးခြင်းတို့ ကြောင့် အလ္လာဟ်အရှင်မြတ်ကဲ့သို့ အရာအားလုံးကို လွှမ်းခြုံသိရှိနိုင် စွမ်းမရှိပေ။ ထို့အတွက်ကြောင့် သူ၏ပင်ကိုဗီဇထဲ၌ပင် ကုရ်အာန်ကျမ်း တော်မြတ်နှင့်အလားတူ ကျမ်းဂန်ကို ဖန်တီးနိုင်စွမ်းမရှိကြပေ။ ပမာဆို ရသော် စာပေပညာရှင်တစ်ဦးက က ဗျာတစ်ပုဒ်ကို ရေးသားပြီးနောက် ထိုကဗျာကို တစ်နှစ်တိတိပြင်ဆင်မှုများပြုမည်။ ထို့နောက် ဤကဗျာ ကို ၎င်းသူကဲ့သို့ ကဗျာဆရာတစ်ဦးကိုပေး၍ ထပ်မံပြင်ဆင်ခိုင်းပါက လည်း ပြင်ဆင်စရာ အမြောက်အမြားကို တွေ့ရှိရမည်ဖြစ်သည်။ ဤသို့ပင် ထိုကဗျာ၌ မဆုံးနိုင်သည့် ပြင်ဆင်စရာများ ကျန်ရှိနေပေလိမ့် မည်။ သို့သော် အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်သည် ဤသို့မဟုတ်။

အဘယ့်ကြောင့်ဆိုသော် ကုရ်အာန်ကျမ်းတော် မြတ်မှ စကားလုံးတစ်လုံးကို ဖြုတ်ချပြီးနောက် ထိုစကားလုံးထက်သာပို သင့်လျှော်သည့်စကားလုံးအစားထိုးရန် ရှာဖွေပါကလည်း လုံးဝတွေ့ရှိမည် မဟုတ်ပေ။

**(၂) أَقْسَامُ الْقُرْآنِ (ကုရ်အာန်ကျမ်းတော်မြတ်အတွင်းရှိ (အလ္လာဟ်အရှင်မြတ်ကျိန်ဆိုထားသော ကစမ်များ ကဏ္ဍ)**

အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်၌ အောက်ဖော်ပြပါ ကဏ္ဍများပေါ်တွင် ကစမ်ကျိန်ဆိုမှုပြုထားပေသည်။ ယင်းတို့မှာ–

(က) လူသားတို့ သက်ဝင်ယုံကြည်ရန် အရေးကြီးသော အီမာန်၏ အခြေခံအုတ်မြစ်များကဏ္ဍ

(ခ) အလ္လာဟ်အရှင်တစ်ပါးတည်းကို သက်ဝင်ယုံကြည်ခြင်းကဏ္ဍ

(ဂ) ကုရ်အာန်ကျမ်းတော်မြတ်သည် မှန်ကန်သော ကျမ်းဂန်ဖြစ်ခြင်း ကဏ္ဍ

(ဃ) ကိုယ်တော်မြတ်(صلى الله عليه وسلم)သည် မှန်ကန်သော ရစူလ်စေတမန်ဖြစ်ခြင်း ကဏ္ဍ

(င) အလ္လာဟ်အရှင်မြတ်၏ ကတိတော်များ၊ သတိပေးခြိမ်းခြောက်မှုများ၊ အရှင်မြတ် အစားပေးမည့် အရာများကဏ္ဍ

(စ) လူသား၏ အခြေအနေကဏ္ဍ စသည်တို့ဖြစ်ပါသည်။

**အလ္လာဟ်အရှင်မြတ် ကစမ်ကျိန်ဆိုခြင်းကြောင့် ရရှိလာသည့် အကျိုးရလဒ်များ**

ယေဘုယျအားဖြင့် ကြည့်မည်ဆိုလျှင် ပြောဆိုခံပုဂ္ဂိုလ်သည် သုံးမျိုးသုံးစားရှိပေသည်။

(က) ဆိုလိုသည့် အမိန့်ပညတ်ချက်နှင့် ပတ်သတ်၍ တစ်စုံတစ်ရာမျှ မသိရှိသေးသောသူ။ ထိုသူကို ယင်းအမိန့်နှင့်ပတ်သက်၍ ပြောဆိုရမည်ဆိုလျှင် စကားရပ်၌ လေးနက်စေသော စကားလုံးများပါရှိရန် အရေးမကြီးပေ။

(ခ) ဆိုလိုသည့် အမိန့်ပညတ်ချက် အတည်ဖြစ်ခြင်း၊ မဖြစ်ခြင်းနှင့် ပတ်သက်၍ သံသယရှိသောသူ။ ထိုသူကို ထိုအမိန့်နှင့်ပတ်သက်၍ ပြောဆိုရမည်ဆိုလျှင် စကားရပ်၌ လေးနက်စေသော စကားလုံးများပါရှိရန် အရေးကြီးပေသည်။

(ဂ) ဆိုလိုသည့် အမိန့်ပညတ်ချက်ကို လက်မခံငြင်းဆန်သောသူ။ ထိုသူကို ထိုအမိန့်နှင့်ပတ်သက်၍ ပြောဆိုရမည်ဆိုလျှင် စကားရပ်၌ ထိုသူငြင်းဆန်သည့် ပမာဏအလိုက် လေးနက်စေသော စကားလုံး များပါရှိရန် အလွန်အရေးကြီးပေသည်။

သို့ဖြစ်ပေရာ ကစမ်သည် စကားကို လေနက်စေသည့် စကားလုံးများအနက်မှ အထိရောက်ဆုံးစကားလုံးပင်ဖြစ်သည်။ ထို့နောက် ကုရ်အာန်ကျမ်းမြတ်သည် လူသားထုတစ်ရပ်လုံးအတွက် အလ္လာဟ် အရှင့်ဘက်တော်မှ ချပေးသောကျမ်းဂန်ဖြစ်သည့်အလျောက် လူသား

တို့တွင်လည်း မတူညီသော အခြေအနေများရှိကြပေသည်။ ချို့မှာမူ သံသယရှိသူများဖြစ်ကြပြီး အချို့မှာမူ လက်မခံငြင်းဆန်သူများ ဖြစ်ကြသည်။ ထို့အတွက်ကြောင့် အလ္လာဟ်အရှင်မြတ်၏ ကစမ်ကျိန်ဆိုမှုသည် ဤသို့သော ဒွိဟသံသယများနှင့် စောဒကများကို ဖယ်ရှားပစ်ရုံ သာမက အထောက်အထားများ၊ သတင်းအချက်အလက်များ၊ အမိန့်ပ ညတ်များ ကိုပါ တိကျခိုင်မာစေသည်။

**(၃) قَصَصُ الْقُرْآنِ (ကုရ်အာန်ကျမ်းတော်မြတ်အတွင်းရှိ လွန်လေပြီးသော နဗီတမန်တော်များနှင့် အွမ္မသ်များ၏အကြောင်းအရာများ ကဏ္ဍ)**

قَصَصُ الْقُرْآنِ ဆိုသည်မှာ ကုရ်အာန်ကျမ်းတော်မြတ်အတွင်းရှိ ရှေးလွန်လေပြီးသော အွမ္မသ်များ၏အကြောင်းရာများ၊ လွန်လေပြီးသော နဗီတမန်တော်များနှင့် ဖြစ်ပျက်ခဲ့သော အဖြစ်အပျက်များကို ခေါ်ဆိုပါသည်။

**قَصَصُ الْقُرْآنِ ၏အမျိုးအစားများ**

قَصَصُ الْقُرْآنِ ၌ အမျိုးအစား (၃) မျိုးပါဝင်ပါသည်။

(က) နဗီတမန်တော်များ၏ အကြောင်းအရာများ။

ထိုအကြောင်းအရာများထဲတွင် နဗီတို့၏ ဒအ်ဝသ်ပေးဖိတ်ခေါ်မှုများ၊ မုအ်ဂျေဇာများ၊ နဗီတမန်များကို ဆန့်ကျင်သူတို့၏ ရပ်တည်ချက်များ၊ အကြင်နဗီတမန်တော်တို့၏ အဆင့်ဆင့်ဒအ်ဝသ်ပေးကြိုး

ပမ်းခဲ့ပုံများ၊ မုအ်မင်န်များ၏ နိဂုံးလှပမှုနှင့် သွေဖည်သူတို့၏ နိဂုံးဆိုးရွားမှု စသည့်အကြောင်းအရာများ ပါဝင်ပါသည်။

ဥပမာ။ ။ တမန်တော် နူးဟ်၊ တမန်တော် အီဗရာဟီးမ်၊ တမန်တော်မူဆာနှင့် အီစာ(ﷺ) စသည့် နဗီတမန်တော်တို့၏ အကြောင်းအရာများ။

(ခ) ရှေးလွန်လေပြီးသော အဖြစ်အပျက်များနှင့် နဗီတမန်တော်မဟုတ်သော ရှေးယခင်ပုဂ္ဂိုလ်ကြီးတို့၏ အကြောင်းအရာများ။

ဥပမာ။ ။ **أهل الكهف، طالوت، جالوت،ذو القرنين** စသည်တို့၏ အကြောင်းအရာများ။

(ဂ) ကိုယ်တော်မြတ်(ﷺ) ၏ ခေတ်၌ ဖြစ်ပျက်ခဲ့သော အကြောင်းအရာများ။

ဥပမာ။ ။ ဗဒရ်စစ်ပွဲ၊ အုဟုဒ်စစ်ပွဲ၊ ဟုနိုင်းန်စစ်ပွဲ၊ သဗူးက်စစ်ပွဲ အစရှိသည့် အကြောင်းအရာများ။

## قَصَصُ الْقُرْآنِ ၏ အကျိုးကျေးဇူးများ

ကုရ်အာန်ကျမ်းတော်မြတ်တွင် ဖော်ပြပါအကြောင်းအရာများကို တင်ပြခြင်းဖြင့် အောက်ပါအကျိုးကျေးဇူးများ ရရှိပေသည်။

(က) အလ္လာဟ်အရှင့်ဘက်တော်သို့ ဖိတ်ခေါ်သမှုပြုရခြင်း၏ အဓိကအရင်းမြစ်ကို ပေါ်လွင်ထင်ရှားစေခြင်း။

"စင်စစ် ငါအရှင်မြတ်သည် အသင့်အလျှင် စေလွှတ်တော်မူခဲ့သော မည်သည့် ရစူလ်တမန်တော်၏ထံသို့မဆို ကေန်အမှန် ငါအရှင်မှတစ်ပါး ခဝပ် ကိုးကွယ်ရာ အရှင်ဟူ၍ အလျှင်းမရှိပြီ။ သို့ဖြစ်ပေရာ အသင်တို့သည် ငါအရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ကြလေကုန်ဟူ၍ အမိန့်တော် ထုတ်ပြန်ချမှတ်တော်မူခဲ့သည်သာ ဖြစ်သည်။" (၂၁-၂၅)

(ခ) ကိုယ်တော်မြတ်(ﷺ)နှင့် ကိုယ်တော်သခင့် အွမ္မသ်သီတို့၏ နှလုံးသားများကို အလ္လာဟ်အရှင့်သာသနာပေါ်၌ မြဲမြံစေခြင်း။ ထို့ပြင် အမှန်တရားနှင့် အမှန်တရားပေါ် လျှောက်လှမ်းသူတို့ကို အလ္လာဟ်အရှင့် ဘက်တော်မှ မုချကူညီတော်မူမည်ဖြစ်ကြောင်းနှင့် လမ်းမှားသူတို့ကို အရှင်မြတ်ဘက်တော်မှ ကူညီဆောင်မတော်မူမည်မဟုတ်ကြောင်းကို မုအ်မင်န်တို့အား အပြည့်အဝယုံကြည်စေခြင်း။

(ဂ) လွန်လေပြီးသော နဗီတမန်တော်များကို ထောက်ခံခြင်းနှင့် ယင်းတို့၏ အကြောင်းအရာများ၊ အမွေအနှစ်များကို ကေယာမသ်နေ့တိုင် ကျန်ရှိစေခြင်း။

(ဃ) လွန်လေပြီးသော အွမ္မသ်များ၏ အကြောင်းအရာများနှင့် ပတ်သက်၍ ကိုယ်တော်မြတ်(ﷺ)၏ မိန့်ကြားချက်များနှင့် ကိုယ်တော်သခင်၏ ဒအ်ဝသ်ပေးဖိတ်ခေါ်မှု မှန်ကန်ကြောင်းကိုထင်ရှားပေါ်လွင်စေခြင်း။

(င) ထင်ရှားပြတ်သားသောအထောက်အထားများနှင့် လမ်းမှန်တရားကို ဖုံးကွယ်ထားသည့်အတွက်ကြောင့် ကောင်းကင်ကျဲကျမ်း ရရှိထားသူတို့ကို ခိုင်မာသော အထောက်အထားများဖြင့် ချေပခြင်း။

လေ့ကျင့်ခန်း

၁။ إِعْجَازُ الْقُرْآنِ အကြောင်းအကျဉ်းချုံးရေးပါ။

၂။ ကုရ်အာန်ကျမ်းတော်မြတ် မုအ်ဂျေဇဟ်ဖြစ်ပုံမှာ အဘယ်သို့ပါနည်း။

၃။ အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်၌ မည်သည့် ကဏ္ဍများပေါ်တွင် ကစမ်ကျိန်ဆိုထားပါသနည်း။

၄။ အလ္လာဟ်အရှင်မြတ် ကစမ်ကျိန်ဆိုခြင်းကြောင့် ရရှိလာသည့် အကျိုးရလဒ်များကို ဖော်ပြပါ။

၅။ قَصَصُ الْقُرْآنِ ဆိုသည်မှာ အဘယ်နည်း။

၆။ قَصَصُ الْقُرْآنِ ၏အမျိုးအစား မည်မျှရှိပါသနည်း။

၇။ قَصَصُ الْقُرْآنِ ၏ အကျိုးကျေးဇူးများကို ဖော်ပြပါ။

## အခန်း(၇)

ဤအခန်းတွင် ကဏ္ဍခွဲ (၂) ခုရှိသည်။

### ကဏ္ဍခွဲ (၁)

- التَّفْسِيْرُبِالنَّقْلِ ကဏ္ဍ
- التَّفْسِيْرُ بِالرَّأْيِ ကဏ္ဍ
- الإِسْرَائِيْلِيَّاتُ ကဏ္ဍ

### ကဏ္ဍခွဲ (၂)

- မုဖက်စိရ်တစ်ဦး၏ ကျင့်ဝတ်များ
- သဖ်စီရ် ကျမ်းဂန်ကြီးများအကြောင်းတစေ့တစောင်း
- မြန်မာ့မြေမှ သဖ်စီးရ်ပညာရှင်ကြီးများနှင့် သဖ်စီးရ်ကျမ်းများ

## အခန်း(၇)

### (၁) التَّفْسِيْرُبِالنَّقْلِ ကဏ္ဍ

التَّفْسِيْرُ بِالنَّقْلِ တွင် အဆင့်(၄)ဆင့်ရှိပေသည်။ ၎င်းတို့မှာ အောက်ပါ အတိုင်းအစဉ်လိုက်ဖြစ်သည်။

(၁) ကုရ်အာန်ကျမ်းတော်မြတ်၏ အာယသ်တော်ကို အာယသ်တော်ဖြင့် သဖ်စီရ်ပြုခြင်း။

(၂) ကုရ်အာန်ကျမ်းတော်မြတ်ကို ဟဒီးစ်တော်ဖြင့် သဖ်စီရ်ပြုခြင်း။

(၃) ကုရ်အာန်ကျမ်းတော်မြတ်ကို ဆွဟာဗဟ်သာဝကကြီးတို့၏ အဆိုအမိန့်များဖြင့် သဖ်စီရ်ပြုခြင်း။

(၄) ကုရ်အာန်ကျမ်းတော်မြတ်ကို သာဗီအီးန်ကြီးတို့၏ အဆိုအမိန့်များဖြင့် သဖ်စီရ်ပြုခြင်း။

**(၁) ကုရ်အာန်ကျမ်းတော်မြတ်၏ အာယသ်တော်ကို အာယသ်တော်ဖြင့် သဖ်စီရ်ပြုခြင်း။**

အာယသ်တော်တစ်အာယသ်ကို သဖ်စီရ်ပြုရာ၌ ဦးစွာပထမ ထိုအာယသ်တော်၏ အကျယ်တဝင့် ရှင်းလင်းချက်ကို ကုရ်အာန်ကျမ်းတော်မြတ်မှသာ ရှာဖွေ၍ သဖ်စီရ်ပြုရပေမည်။ အဘယ့်ကြောင့်ဆိုသော် အကြောင်းအရာတစ်ခုသည် ကုရ်အာန်ကျမ်းတော်မြတ်၏ တစ်နေရာတွင် အကျဉ်းချုံးလာရှိ၍ အခြားတစ်နေရာတွင်မူ အကျယ်တဝင့် လာရှိတတ်သည့်အတွက်ကြောင့် ဖြစ်သည်။ သို့ဖြစ်ပေရာ ကုရ်အာန်ကျမ်း

တော်မြတ်ကို သဖ်စိရ်ပြုလိုသူသည် ဦးစွာပထမ ကုရ်အာန်ကိုပင် ထဲထဲဝင်ဝင် လေ့လာရမည်။ ထို့နောက် အကြောင်းအရာတစ် ခုနှင့်ပတ်သက်၍ ထပ်တလဲလဲလာရှိသည့်အာယသ်တော်များကို စုစည်းကာ အကျဉ်းချုံးလာရှိသည့်အာယသ်တော်ကို အကျယ်တဝင့်လာရှိသည့် အာယသ်တော်ဖြင့် သဖ်စိရ်ပြုရပေမည်။

## (၂) ကုရ်အာန်ကျမ်းတော်မြတ်ကို ဟဒီးစ်တော်ဖြင့် သဖ်စိရ်ပြုခြင်း။

ကိုယ်တော်မြတ်(ﷺ)သည် ဆွဟာဗဟ်သာဝကြီးများကို ကုရ်အာန်ကျမ်းတော်မြတ်၏ စာလုံးများအား ရှင်းပြသကဲ့သို့ အဓိပ္ပာယ်များကိုလည်း ရှင်းပြပေးခဲ့သည်။ ကျမ်းမြတ်ကုရ်အာန်တွင် “ထိုမှတပါး ငါ အရှင်မြတ်သည် အသင့်ထံသို့လည်း ကျမ်းဂန်ဓမ္မခန်ကို အသင်သည် လူသားတို့အား ထိုသူတို့ထံ ချပေးသနားတော်မူခြင်းခံရသည့် အမိန့်တော်များကို ထင်ရှားပြစေအံ့သောငှာလည်းကောင်း၊ ထိုသူတို့သည် စဉ်းစားဆင်ခြင်ကြအံ့သောငှာလည်းကောင်း၊ ချပေးသနားတော်မူခဲ့ပေသည်”ဟု မိန့်ကြားထားသည်။ (၁၆-၄၄)

ထို့နောက် ဆွဟာဗဟ်သာဝကြီးများကလည်း ကိုယ်တော်မြတ်(ﷺ)ထံပါးမှ အာယသ်တော်များ၏ အသိနှင့်အအ်မလ်နှစ်ခုစလုံးကို ပူးတွဲ၍ သင်ယူခဲ့ကြပေသည်။ သို့သော် မိမိတို့သင်ကြားခဲ့သော ဤအသိတရားကို တစ်ခါတစ်ရံတွင် ကိုယ်တော်မြတ်(ﷺ)သခင်ထိ စနဒ်(ဆင့်ပြန်ခြင်းကွင်းဆက်) ကို ဆက်၍ ဆင့်ပြန်ပြီး တစ်ခါတစ်ရံတွင်မူ ထိုသို့ စနဒ်ကို ဆက်၍ ဆင့်ပြန်လေ့မရှိပေ။ သို့သော် ဆွဟာဗဟ်ကြီးများ၏ ဤ

ဒုတိယနည်းဖြင့် ဆင့်ပြန်သော ဆင့်ပြန်ချက်အားလုံးသည်လည်း ဟဒီးစ်ပညာရှင်ကြီးများထံပါး၌ الحَدِيْثُ الْمَرْفُوْعُ (ကိုယ်တော်မြတ်(ﷺ)ထိ စနဒ်ရှိသော ဟဒီးစ်)၏ အမိန့်တွင် ပါဝင်ပေသည်။ အထူးသဖြင့် ဦးနှောက်ကို သုံးပြီး တွေးခေါ်၍ မရနိုင်သည့် ကိစ္စရပ်တစ်စုံတစ်ခုကို ဆွဟာဗဟ်ကြီးများက အမိန့်ရှိပါမူ ဤသည် ဧကန်အမှန် ကိုယ်တော်မြတ်(ﷺ)၏မိန့်မြွက်ချက်ပင်ဖြစ်သည်။

## (၃) ကုရ်အာန်ကျမ်းတော်မြတ်ကို ဆွဟာဗဟ်သာဝကကြီးတို့၏ အဆိုအမိန့်များဖြင့် သဖ်စီရ်ပြုခြင်း။

အီမာမ်အဗ္ဗနုသိုင်မိယဟ်(ﷺ)သခင်က ဤသို့အမိန့်ရှိသည်။ "အာယသ်တော်တစ်ခုခု၏ သဖ်စီရ်ကို ကုရ်အာန်နှင့် ဟဒီးစ်တော်တွင် မတွေ့ရှိပါက ထိုအာယသ်တော်၏ သဖ်စီရ်ရှင်းလင်းချက်ကို ဆွဟာဗဟ်သာဝကြီးများ၏ အဆိုအမိန့်များတွင် လေ့လာရှာဖွေရပေမည်။ သူတို့သည် ကုရ်အာန်ကျမ်းတော်မြတ် ကျရောက်ခဲ့စဉ်ကို မျက်ဝါး ထင်ထင် မြင်တွေ့ခဲ့ရခြင်း၊ အာယသ်တော်များနှင့် သက်ဆိုင်သည့် အချို့အခြေအနေများကို လက်တွေ့ ကြုံကြိုက်ခဲ့ရခြင်း၊ သူတို့၌ ကုရ်အာန်ကျမ်းတော်မြတ်နှင့်ပတ်သက်၍ ပြည့်ဝသော နားလည်မှုများရှိခြင်းနှင့် အတူ အာယသ်တော်များကို လက်တွေ့ကျင့်ကြံအားထုတ်မှုများပါရှိသည့် အတွက်ကြောင့် သဖ်စီရ်နှင့် ပတ်သက်၍ အသိဆုံးပုဂ္ဂိုလ် များဖြစ်ကြသည်။" ဤအတွက်ကြောင့်ပင် သဖ်စီရ်ပြုရာ၌ သူတို့၏ အဆိုအမိန့်များကို မှီငြမ်းကိုးကားရန် အရေးကြီးပေသည်။

## (၄) ကုရ်အာန်ကျမ်းတော်မြတ်ကို သာဗီအီးန်ကြီးတို့၏ အဆိုအမိန့်များဖြင့် သဖ်စီရ်ပြုခြင်း။

သာဗီအီးန်ကြီးများသည် ဆွဟာဗဟ်သာဝကကြီးများထံပါးမှ ဟဒီးစ်တော်များကို သင်ယူသကဲ့သို့ သဖ်စီရ်ပညာရပ်ကိုလည်း သင်ယူခဲ့ကြသည်။ သို့သော် သူတို့သည် ဟဒီးစ်တော်များကို ရှင်းပြရာ၌ အချို့သောနေရာများတွင် မိမိတို့ဘက်မှ ကောက်နုတ်ချက်များကို တင်ပြသကဲ့သို့ သဖ်စီရ်တွင်လည်း ထိုကဲ့သို့ ပြုမူလေ့ရှိပေသည်။ သာဗီအီးန်ကြီးများအနက်မှ အချို့သူတို့သည် ကုရ်အာန်ကျမ်းတော်မြတ်တစ်အုပ်လုံး (သို့မဟုတ်) အများစု၏ သဖ်စီရ်ကို ဆွဟာဗဟ်သာဝကြီးများထံပါးမှ တိုက် ရိုက်သင်ယူ ဆည်းပူးခဲ့ကြသည်။ ယင်းတို့မှာ(ﷺ) عبد الله بن مسعود، عبد الله بن عباس တို့၏ တပည့်များဖြစ်ကြပေသည်။ ထို့အတွက်ကြောင့် သဖ်စီရ်ပြုရာ၌ သာဗီအီးန်ကြီးများ၏ အဆိုအမိန့်များကို မှီငြမ်းကိုးကားရန် အရေးကြီးပေသည်။ ဟဇရသ်ရှိုအ်ဗဟ်(ﷺ)နှင့် အခြားသောပညာရှင်များက ဤသို့မိန့်ကြားလေသည်။ "သာဗီအီးန်တို့၏ မိန့်ခွန်းချက်များ သည် ရှရီအသ်အမိန့်ပညတ်များ၌ အထောက်အထားယူ၍ မရသော် အဘယ်ကဲ့သို့ သဖ်စီရ်ပညာရပ်၌ အထောက်အထားအဖြစ် ကိုးကား၍ ရမည်နည်း။ (ဆိုလိုသည်မှာ သူတို့၏ အဆိုအမိန့်များသည် ထိုသူတို့နှင့် အယူအဆမတူသော သူများအပေါ် အထောက်အထားအဖြစ် အကိုးအကားယူ၍မရပါ)ဆိုသည့် စောဒက၏ အဖြေမှာ အောက်ပါ

အတိုင်း ဖြစ်ပေသည်။ ‘ဖော်ပြပါစောဒကသည် မှန်ကန်ပေသည်။ သို့သော် သာဗီအီးန်ကြီးများက ကိစ္စရပ်တစ်ခုနှင့်ပတ်သက်၍ တစ်ညီတစ်ညွတ်တည်း မိန့်ကြားခဲ့ပါမူ ထိုအခါ သူတို့၏ အဆိုအမိန့်များသည် အထောက်အထားအကိုးအကားဖြစ်နိုင်ခြင်းတွင် သံသယမရှိပေ။ သို့သော် သာဗီအီးန်ကြီးများအချင်းချင်းကြား၌ ကွဲလွဲမှုများရှိပါက သူတို့အနက်မှ အချို့၏အဆိုကို အချို့အပေါ်၌ အထောက်အထားပေး၍ မရသကဲ့သို့ သူတို့နောက်တွင် ပေါ်ထွန်းလာသည့် ပညာရှင်များပေါ်၌လည်း အထောက်အထားပေး၍ မရပေ။ ထိုအခါ ကုရ်အာန်ကျမ်းတော်မြတ်၏ အသုံးအနှုန်းများ၊ ဟာဒီးစ်တော်များ၊ အရဗီစာပေနှင့် ဆွဟာဗဟ်သာဝကြီးများ၏ အဆိုအမိန့်များကို အခြေခံ၍ သဖ်စိရ်ပြုရပေမည်။

**(၂) التَّفْسِيْرُ بِالرَّأْيِ ကဏ္ဍ**

ကုရ်အာန်ကျမ်းတော်မြတ်နှင့်ပတ်သက်၍ ဦးနှောက်ကို အခြေခံပြီး တွေးခေါ်ဖွင့်ဆိုပုံမှာ (၂)မျိုးရှိပေသည်။

(က) အရဗီစာပေနှင့်သော်လည်းကောင်း (သို့မဟုတ်) ရှရီအသ်၏ အထောက်အထားများနှင့်သော်လည်းကောင်း လိုက်လျောညီထွေမှု မရှိသည့်တွေးခေါ်ဖွင့်ဆိုပုံ။ ဤသည်ကို မှားယွင်းသောတွေးခေါ်ဖွင့်ဆိုပုံဟုခေါ်သည်။

(ခ) ကုရ်အာန်နှင့် ဟာဒီးစ်တော်အရသော်လည်းကောင်း (သို့မဟုတ်) အရဗီစာ ပေအရသော်လည်းကောင်း လိုက်လျောညီထွေမှုရှိသည့် တွေးခေါ်ဖွင့်ဆိုပုံ။ ဤသည်ကို မှန်ကန်သော တွေးခေါ်ဖွင့်ဆိုပုံ ဟုခေါ်သည်။

## မှားယွင်းသော တွေးခေါ်ဖွင့်ဆိုပုံ

မှားယွင်းသော တွေးခေါ်ဖွင့်ဆိုပုံဖြင့် ကုရ်အာန်ကျမ်းတော်မြတ်ကို တွေးခေါ်ဖွင့်ဆိုခြင်းသည် ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်အပေါ် ဝယ် အထောက်အထားမဲ့ မုသားလီဆယ်ပြောဆိုခြင်းပင် ဖြစ်သည်။ ဤသည်နှင့်ပတ်သက်၍ ဟရာမ်ဖြစ်ကြောင်း မြောက်မြားစွာသော အထောက်အထားများ လာရှိထားပေသသည်။ “ဟဇရသ် အဗ္ဗနုအဗ္ဗားစ် (ﷺ)သခင်က ဤသို့ဆင့်ပြန်သည်။ ကိုယ်တော်မြတ် (ﷺ) မိန့်တော်မူသည်။ ကုရ်အာန်ကျမ်းတော်မြတ်နှင့် ပတ်သက်၍ အသိပညာမရှိဘဲ တစ်စုံတစ်ရာပြောဆိုသူသည် မိမိအတွက် ဂျဟန္နမ်ငရဲ၌ နေရာထိုင်ခင်း အသင့်ပြင်ထားပါလေ” (သိရ်မိဇီကျမ်း ဟဒီးစ်နံပါတ်-၂၉၅၀)

ဟဇရသ် جُنْدُبُ بْنُ عَبْدِ اللهِ (ﷺ)က ဆင့်ပြန်သည်။ ကိုယ်တော်မြတ်(ﷺ) က ဤသို့ မိန့်တော်မူသည်။ “ကုရ်အာန်ကျမ်းတော်မြတ်နှင့်ပတ်သက်၍ မိမိအတွေးအမြင်ဖြင့် ပြောဆိုသူသည် မှန်လျှင်လည်း မှား၏။” (သိရ်မိဇီကျမ်း ဟဒီးစ်နံပါတ်- ၂၉၅၂) ဖော်ပြပါ ဟဒီးစ်တော်များ၌ လာရှိသည့် ကုရ်အာန်ကို မိမိသဘောဖြင့် သိဖ်စိရ်မပြုပိုင်းခြင်းနှင့် **التَّفْسِيْرُ بِالرَّأْيِ** သည် လုံးဝ**(လုံးဝ)** သက်ဆိုင်မှုမရှိပေ။

ဟဇရသ်မုဂျာဟိဒ်နှင့် ဟဇရသ်ကသာဒဟ်(ﷺ)တို့ထံပါးမှ ကုရ်အာန်ကျမ်းတော်မြတ်ကို သဖ်စိရ်ပြုသည်ဟု ဆင့်ပြန်ချက်များလာရှိသည်တို့မှာ ဧကန်စင်စစ် ထိုပုဂ္ဂိုလ်ကြီးများက ကုရ်အာန်ကို မသိဘဲ မိမိတို့၏

အတွေးအမြင်များဖြင့် သဖ်စီရ်ပြုခဲ့ခြင်းမဟုတ်ပေ။ သို့သာမက သူတို့သည် ကုရ်အာန်ကျမ်းတော်မြတ်ကို ဆင့်ပြန်ချက်များဖြင့်လည်းကောင်း၊ မှန်ကန်သောတွေးခေါ်ဖွင့်ဆိုပုံတို့ကိုလည်းကောင်း အခြေခံ၍သာ သိဖ်စီရ်ပြုကြခြင်းဖြစ်သည်။

## မှန်ကန်သော တွေးခေါ်ဖွင့်ဆိုပုံ

အေမာမ်သိရ်မိဇီ(ﷺ)၏ တင်ပြချက်များအရ ကုရ်အာန်ကျမ်းတော်မြတ်နှင့်ပတ်သက်၍ ဦးနှောက်ကိုအခြေခံပြီးကောက်နုတ်ခြင်းသည် အိလ်မ်(ကုရ်အာန်နှင့်ပတ်သက်သည့် ပညာရပ်များကိုသိနားလည်) ပြီးကောက်နုတ်ပါမူ ဟရာမ်မဖြစ်ပေ။ ဆွဟာဗဟ်သာဝကြီးများနှင့် သာဗီအီးန်တို့ကလည်း ဤအတိုင်းပင် သဖ်စီရ်ပြုကြခြင်းဖြစ်ပေသည်။ သို့သာမက သဖ်စီရ် ကဏ္ဍာ၌ သူတို့ပြုသည့် သဖ်စီရ်သည် အကောင်းမွန်ဆုံးပင်ဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် သူတို့သည် သဖ်စီရ်ပြုရာ၌ ကုရ်အာန်ကျမ်းတော်မြတ်ကိုလည်းကောင်း၊ ဟဒီးစ်တော်များကိုလည်းကောင်း၊ အရဗီစာပေကျွမ်းကျင်မှု၊ ကုရ်အာန်၏ စကားလုံးများက ညွှန်းဆိုပြသည့်ညွှန်းဆိုချက်များ၊ သာသနာ၏ အခြေခံမှုများကို နားလည်းတတ်ကျွမ်းမှုကို မှီငြမ်းကိုးကား၍ ရရှိလာသည့် ကောက်နုတ်ချက်များကိုလည်းကောင်း အခြေခံသည့် အတွက်ကြောင့်ဖြစ်သည်။ ကုရ်အာန်ကို သဖ်စီရ်ပြုရာ၌ မှန်ကန်သော တွေးခေါ်ဖွင့်ဆိုပုံကိုအောက်ဖော်ပြပါအချက်များကြောင့် စွန့်လွှတ်ထား၍ မရနိုင်ပေ။

(က) အလ္လာဟ်အရှင်မြတ်သည် မြောက်မြားစွာသော အာယသ်တော်များတွင် ကုရ်အာန်ကျမ်းတော်မြတ်နှင့်ပတ်သက်၍ စဉ်းစားတွေးခေါ်ရန် အတိအလင်း မိန့်မြွက်တော်မူထားပေသည်။ "(ယင်းကျမ်းဂန်ကို ချပေးတော်မူခြင်းကား) လူတို့သည် ယင်းကျမ်းဂန်၏ အာယသ်တော်များကို စဉ်းစားဆင်ခြင်ကြအံ့သောငှာ လည်းကောင်း၊ အသိအမြင်ရှိသောသူတို့သည် တရားရယူကြအံ့သော အကျိုးငှာလည်းကောင်း၊ ဖြစ်ပေသတည်း။" (၃၈-၂၉)

(ခ) ကျွန်ုပ်တို့သည် ကုရ်အာန်ကျမ်းတော်မြတ်၏ အနက်အဓိပ္ပာယ်များနှင့် ဆိုလိုရင်းများကို နားလည်းသဘောပေါက်ရန်အရေးကြီးသကဲ့သို့ စကားလုံးများ၏ ရှင်လင်းချက်များနှင့် အမိန့်ပညတ်ချက်များကို ကောက်နုတ်ရန်လည်း အရေးကြီးပေသည်။ ရှေးယခင်ပုဂ္ဂိုလ်များသည် ဖော်ပြ ပါအချက်အလက်အားလုံးကို စုံလင်စွာပြုစုရေးသားခဲ့ခြင်းမရှိခဲ့ပေ။ ထို့ကြောင့် မှန်ကန်သောတွေးခေါ်ဖွင့်ဆိုပုံကို အခြေခံ၍ သဖ်စီရ်မပြုပါမူ ကျွန်ုပ်တို့သည် ကုရ်အာန်ကျမ်းမြတ်၏ မြောက်မြားစွာသော အမိန့်ပညတ်များမှ လက်မဲ့ဖြစ်ရပေမည်။ သို့ဖြစ်ပေရာ ကုရ်အာန်ကျမ်းမြတ်ကို မှန်ကန်သောတွေးခေါ်ဖွင့်ဆိုပုံဖြင့် သဖ်စီရ်ပြုရန် အရေးကြီးပေသည်။

(ဂ) မှန်ကန်သောတွေးခေါ်ဖွင့်ဆိုပုံဖြင့် ကျမ်းမြတ်ကုရ်အာန်ကို သဖ်စီရ်ပြုခြင်းသည် မကောင်းသော လုပ်ရပ်တစ်ခုဖြစ်ပါမူ ဆွဟာဗဟ်သာဝကကြီးများက ဤသို့သော လုပ်ရပ်ပြုခဲ့မည် မဟုတ်ပေ။ သို့သော်

ဆွဟာဗဟ်ကြီးများက ကုရ်အာန်ကျမ်းတော်မြတ်ကို ဘောင်အတွင်း မှမိမိတို့ နားလည်သဘောပေါက်သည့်အတိုင်း သဖ်စီရ်ပြုခဲ့သည်ဟု ဆင့်ပြန်ချက်များလာရှိပေသည်။ အေမာမ်ဂဇ္ဇာလီ(ﷺ)က ဤသို့အမိန့်ရှိသည်။ "ကုရ်အာန်ကျမ်းတော်မြတ်၏ အနက်အဓိပ္ပာယ်များကို သိနားလည်းခြင်း အခန်းကဏ္ဍသည် အလွန်ပင်ကျယ်ပြန့်သော အခန်းကဏ္ဍဖြစ်သည်။ ထို့နောက် သဖ်စီရ်နှင့် ပတ်သက်၍လာရှိထားသော ဆင့်ပြန်ချက်များမှာလည်း ကုရ်အာန်၏ အနက်အဓိပ္ပာယ်အားလုံးကို သိနားလည်ရန် လုံလောက်သည့်အတိုင်းအတာတွင်မရှိပေ။ ထို့ကြောင့် သဖ်စီရ်ပြုရာ၌ ဆင့်ပြန်ချက်များဖြင့်သာ သဖ်စီရ်ပြုရမည့်စည်းကမ်းချက်သတ်မှတ်ခြင်းသည် မပိုင်ပေ။ သို့ဖြစ်ပေရာ လူသားတိုင်းသည် မိမိတို့နားလည်သည့် အတိုင်းအတာနှင့်အညီ ကုရ်အာန်ကျမ်းတော်မြတ်မှ လမ်းညွှန်ချက်များကို ကောက်နုတ်နိုင်ပေသည်။"

**မှားယွင်းသော တွေးခေါ်ဖွင့်ဆိုပုံကို လက်ကိုင်ပြုထားကြသူများ**

ဆွဟာဗဟ်ကြီးများ၊ သာဗီအီးန်ကြီးများ၊ သဗ္ဗသာဗီအီးန်ကြီးများသည် ကုရ်အာန်ကျမ်းတော်မြတ်ကို မိမိတို့သိရှိထားသည့် ဆင့်ပြန်ချက်များ၊ မှန်ကန်သော အသိတရားများအားအခြေခံ၍ သဖ်စီရ်ပြုကြသည်။

ထို့နောက်တွင် အရဗီစာပေ၏ သဘောတရားများကို သိနားလည်ခြင်းမရှိဘဲ မိမိတို့ဘက်မှ တရားသစ်တီထွင်ထားသော လမ်းစဉ်များ၊ စိတ်အလိုရမ္မက်များကို အခြေခံ၍ ကုရ်အာန်ကို သဖ်စီရ်ပြုကြ

သည့် အဖွဲ့တစ်ဖွဲ့ပေါ်ထွန်းလာသည်။ ထိုအခါ သူတို့၏ သဖ်စိရ်များတွင် အမှားများ များစွာပါဝင်လျက်ရှိပေသည်။ ထိုသူတို့သည် ယေဘုယျအား ဖြင့် အဖွဲ့နှစ်ဖွဲ့ဖြစ်နိုင်ပေသည်။

(က) **ပထမအဖွဲ့။** ။ သူတို့သည် ကုရ်အာန်၏စကားလုံးများက ညွှန်း ဆိုဖော်ပြနေသည့်အနက်အဓိပ္ပာယ်များကို ထောက်ရှုခြင်းမပြုဘဲ မိမိတို့ ယုံကြည်ချက်များနှင့် အတွေးခေါ်များကိုသာ စံထား၍ ကုရ် အာန်၏ အာယသ်တော်များကို လိုရာဆွဲယူကာ သဖ်စိရ်ပြုကြပေသည်။ **الْخَوَارِجُ، الرَّوَافِضُ، الْجَهْمِيَّةُ، الْمُعْتَزِلَةُ، الْقَدَرِيَّةُ، الْمُرْجِئَةُ** တို့သည် ထိုအဖွဲ့၏ အသင်း ဝင်များဖြစ်ကြသည်။

(ခ) **ဒုတိယအဖွဲ့။** ။ သူတို့သည် ကုရ်အာန်ကျမ်းမြတ်ကို ချပေး သူ၊ ချပေးခြင်းခံရသူ၊ ကုရ်အာန်က မိန့်ဆိုနေသူ၊ အာယသ်တော်များ၏ အသွားအလာများ စသည့်ရှုထောင့်များကို ထောက်ရှုခြင်းမပြုဘဲ ကုရ် အာန်၏ အပေါ်ယံအဓိပ္ပာယ်ကိုသာအခြေခံ၍ သဖ်စိရ်ပြုကြပေသည်။ ထို့ပြင် သူတို့သည် ကုရ်အာန်ကျမ်းမြတ်၏ စကားလုံးများကို အဓိပ္ပာယ် ပြန်ဆိုရာ၌ပင် မှန်ကန်တိကျစွာ ပြန်ဆိုနိုင်ခြင်းမရှိကြပေ။

**(၃) الْإِسْرَائِيْلِيَّات ကဏ္ဍ**

ကုရ်အာန်ကျမ်းတော်မြတ်တွင် သောင်ရာဟ်ကျမ်းနှင့် အင်ဂျီလ် ကျမ်းများ၌ ပါဝင်သည့် အကြောင်းအရာကို ဖော်ပြထားပေသည်။ သို့ သော် ကုရ်အာန်သည် ထိုသို့သောအကြောင်းအရာများကို အသေးစိတ်

ဖော်ပြခြင်းမရှိဘဲ သူတို့သံဝေဂယူနိုင်ရန် အတိုချုံး၍ ဖော်ပြပေသည်။ သို့သော် သောင်ရာဟ်ကျမ်းနှင့် အင်ဂျီးလ်ကျမ်းတို့သည် ထိုသို့သော အကြောင်းများနှင့်ပတ်သက်၍ အမည်နာမများ၊ မြို့အမည်များ၊ ခုနှစ်များ စသည်တို့ကိုပါ အကျယ်တဝင့်ဖော်ပြထားပေသည်။ ထိုသို့သောအကြောင်းအရာများကို အစ္စလာမ်သာသနာတော်ထဲသို့ ဝင်ရောက်လာကြသော ကောင်းကင်ကျကျမ်းများ ရရှိထားသည့် ပုဂ္ဂိုလ်တို့က ပြောဆိုတင်ပြခြင်းကို **الإِسْرَائِيْلِيَّاتُ** ဟုခေါ်ဆိုပေသည်။ **الإِسْرَائِيْلِيَّاتُ** သည် (၃) မျိုးရှိပေသည်။

(က) ကုရ်အာန်ကျမ်းတော်မြတ်၊ ဟဒီးစ်တော်များနှင့် ကိုက်ညီမှုရှိသော **الإِسْرَائِيْلِيَّاتُ**များ။ ယင်းတို့ကို အထောက်အထား အဖြစ်စံပြုကာကိုးကားခြင်း ပိုင်သည်။ ထို့နောက် ၎င်းအကြောင်းအရာများသည် များသောအားဖြင့် နဗီတမန်တော်များ၏ အတ္ထုပ္ပတ္တိများနှင့် သက်ဆိုင်သော အကြောင်းအရာများဖြစ်သည်။ ထိုအမျိုးအစားကို ရည်ညွှန်း၍ ကိုယ်တော်မြတ်(ﷺ)က ဤသို့မိန့်တော်မူခဲ့သည်။ “အာယသ်တစ်အာယသ်ပင် ဖြစ်လျှင့်ကစား ငါကိုယ်တော်မြတ်ထံပါးမှ ပြန်လည်ပို့ချကြလေကုန်။ ထို့နောက် အသင်တို့သည် ဗနီအစ္စရာအီးလ်များထံပါးမှလည်း ဆင့်ပြန်ကြကုန်။ ဤသို့ ဆင့်ပြန်ခြင်းသည် ပြုပိုင်ပေသည်။ ငါကိုယ်တော်မြတ်အပေါ်တွင် အတလိလိမ်လည်မှုသားပြောဆိုသူသည် မိမိအတွက်

ဂျဟာန္နမ်ငရဲ၌ နေရာထိုင်ခင်းအသင့်ပြင်ထားပါလေ။" (ဗိုခါရီကျမ်း ဟဒီးစ်နံပါတ်–၃၄၆၁)

ဗနီအစ္စရာအီးလ်တို့ထံပါးမှ ဆင့်ပြန်ခြင်းပိုင်သည်ဆိုသော အလိုသဘောနှင့်ပတ်သက်၍ အေမာမ်မာလိက်(ﷺ)က ဤသို့အမိန့်ရှိသည်။ "ထိုသူတို့ထံမှ မှန်ကန်တိကျသော အကြောင်းအရာများကို ဆိုလိုသည်။ လီဆယ်ထားသော အကြောင်းများကိုမူ လုံးဝ ဆင့်ပြန်ပိုင်ခွင့်မရှိပေ။

(ခ) ကုရ်အာန်၊ ဟဒီးစ်နှင့် ဆန့်ကျင်သော اَلإِسْرَائِيْلِيَّاتُ များ။ ထိုအချက်များကို ဆင့်ပြန်ခြင်းလုံးဝ မပြုပိုင်ပေ။

(ဂ) ကုရ်အာန်၊ ဟဒီးစ်နှင့် ကိုက်ညီမှုမရှိသကဲ့သို့ ဆန့်ကျင်ခြင်းလည်းမရှိသည့် اَلإِسْرَائِيْلِيَّاتُများ။ ယင်းတို့နှင့်ပတ်သက်၍ နှုတ်ဆိတ်နေရမည်။ ဆိုလိုသည်မှာ ကျွန်ုပ်တို့သည် ထိုအကြောင်းအရာများကို ငြင်းဆန်မှုမပြုရသကဲ့သို့ လက်ခံခြင်းလည်းမပြုရပေ။ သို့သာမက ထိုအကြောင်းအရာများကို ဆင့်ပြန်သည့်နေရာ၌ သတိကြီးစွာ ထားရှိရမည်။ အဘယ့်ကြောင့်ဆိုသော် ယင်းတို့အနက်မှ အချို့အကျယ်တဝင့် ဖော်ပြထားသော အကြောင်းအရာများသည် ဒဏ္ဍာရီဆန်ဆန်အ ကြောင်းအရာများဖြစ်သည့်အတွက်ကြောင့်ဖြစ်သည်။ ထိုအကြောင်း အရာများနှင့်ပတ်သက်၍ ကိုယ်တော်မြတ်(ﷺ)က ဤသို့အမိန့်ရှိသည်။ "အသင်တို့သည် ကောင်းကင်ကျ ကျမ်းရပုဂ္ဂိုလ်များ၏ ပြောဆိုချက်များကို ထောက်ခံခြင်းမပြုကြလေနှင့်။ ထို့ပြင် သူတို့ကို ငြင်းဆန်ခြင်းလည်း မပြုကြလေ

နှင့်။ အသင်တို့သည် 'အလ္လာဟ်အရှင်နှင့် အလ္လာဟ်အရှင် ကျွန်ုပ်တို့ပေါ်၌ ချပေးသောအရာများကိုသာ သက်ဝင်ယုံကြည်ပါ သည်'ဟူ၍သာ ပြောဆိုကြလေကုန်။" (ဗိုခါရီကျမ်း ဟဒီးစ်နံပါတ်၇၅၄၂)

**လေ့ကျင့်ခန်း**

၁။ التَّفْسِيْرُبِالنَّقْلِ ဆိုသည်မှာ အဘယ်နည်း။ ယင်း၏ အမျိုးအစားမည်မျှ ရှိသနည်း။

၂။ "ကုရ်အာန်ကျမ်းတော်မြတ်ကို သာဗီအီးန်ကြီးတို့၏ အဆိုအမိန့်များဖြင့် သဖ်စီရ်ပြုခြင်း" ကဏ္ဍကို အကျယ်တဝင့်ရှင်းပြပါ။

၃။ التَّفْسِيْرُ بِالرَّأْيِ ဆိုသည်မှာ အဘယ်နည်း။ ယင်း၏ အမျိုးအစားမည်မျှ ရှိသနည်း။

၄။ "မှားယွင်းသော တွေးခေါ်ဖွင့်ဆိုပုံ" ကို အကျယ်ရှင်းပါ။

၅။ "မှန်ကန်သော တွေးခေါ်ဖွင့်ဆိုပုံ" ကို အကျယ်တဝင့်ရှင်းပြပါ။

၆။ မည်သည့်အချက်များကြောင့် "မှန်ကန်သော တွေးခေါ်ဖွင့်ဆိုပုံ" ကို စွန့်လွှတ်၍မရပါသနည်း။

၇။ الإِسْرَائِيْلِيَّاتُ ဆိုသည်မှာ အဘယ်နည်း။ ယင်း၏ အမျိုးအစားများနှင့် အမိန့်ပညတ်ချက်များကို အကျဉ်းချုံးဖော်ပြပါ။

## ကဏ္ဍခွဲ(၂)

### (၁) မုဖက်စိရ်တစ်ဦးအတွက်အရေးကြီးသော စည်းကမ်းချက်များနှင့် ကျင့်ဝတ်များ

မုဖတ်စိရ်တစ်ဦးသည် အောက်ဖော်ပြပါ စည်းကမ်းချက်များနှင့်ကိုက်ညီ ရမည်ဖြစ်သည်။

(၁) အကီဒဟ်မှန်ကန်ရမည်။

(၂) စိတ်အလိုရမ္မက်များနောက်လိုက်ခြင်းမှ ကင်းရှင်းရမည်။

(၃) အာယသ်တော်များကို သဖ်စိရ်ပြုရာ၌ ဦးစွာပထမ အာယသ်တော်ဖြင့်သာ သဖ်စိရ်ပြုရမည်။

(၄) ထို့နောက် အာယသ်တော်များကို ဟဒီးစ်တော်များဖြင့်လည်းကောင်း၊ ဆွဟာဗဟ်ကြီးများနှင့် သာဗီအီကြီးများ၏ အဆိုအမိန့်များဖြင့်လည်းကောင်း အစဉ်လိုက် သဖ်စိရ်ပြုရမည်။

(၅) အရဗီစာပေကို တတ်ကျွမ်းနားလည်ရမည်။

(၆) ကုရ်အာန်နှင့် ပတ်သက်ဆက်နွယ်နေသော ပညာရပ်များကို သိနားလည်ရမည်။

ဥပမာ။ ။ ကေရာအသ်ဘာသာရပ်၊ အကီဒဟ်ဘာသာရပ်၊ သဖ်စိရ်၏ အခြေခံဥပဒေဘာသာရပ်။

(၇) နားလည်မှု၌ အသေးစိတ်ဂဃနဏ နားလည်မှု ရှိရမည်။

**မုဖက်စိရ်တစ်ဦး ကျင့်ဆောင်ရမည့် ကျင့်ဝတ်များ။**

(၁) ရည်ရွယ်ချက်မှန်ကန်ရမည်။

(၂) ကိုယ်ကျင့်သီလ ကောင်းမွန်ရမည်။

(၃) တတ်သိပညာအပေါ်အအ်မလ်ပြုရမည်။

(၄) သဖ်စိရ်နှင့်ပတ်သက်သည့် ဆင့်ပြန်ချက်များကို ဆင့်ပြန်ရာ၌ သေချာဆန်းစစ်ပြီးမှသာ ဆင့်ပြန်မှုပြုရမည်။

(၅) ရိုကျိုးမှုရှိရမည်။

(၆) သိက္ခာရှိစွာနေထိုင်ရမည်။ အဟောသိက ကိစ္စရပ်များမှ ရှောင်ကြဉ်ရမည်။

(၇) အမှန်တရားနှင့်ပတ်သက်၍ ပြတ်ပြတ်သားသား ပြောဆိုရဲရမည်။

(၈) ပြောဆိုရေးသားရာ၌ ရှင်းလင်းပြတ်သားစွာ ပြောဆိုရေးသားရမည်။

(၉) မိမိထက် အသိပညာကြွယ်ဝသူကို ဦးစားပေးရမည်။ ဆိုလိုသည်မှာ သဖ်စိရ်ပြုရာ၌ ထိုသူကို ဦးစားပေး၍ သဖ်စိရ်ပြုခိုင်းရမည်။ ထိုသူရှိပါလျက် ဦးစားမပေးဘဲ သဖ်စိရ်မပြုရ။

(၁၀) ပြောဆိုရာ၌လည်းကောင်း၊ ရေးသားရာ၌လည်းကောင်း တင်ပြမှုကောင်းမွန်ရမည်။

## (၂) သဖ်စီရ် ကျမ်းဂန်ကြီးများအကြောင်း တစေ့တစောင်း

သဖ်စီရ်နှင့်ပတ်သက်၍ ရေးသားပြုစုထားသော ကျမ်းဂန်များမှာ အမျိုးမျိုးရှိပေသည်။ အချို့သော ကျမ်းဂန်များမှာ (التَّفْسِيْرُ بِالرَّأْيِ)ဆင့်ပြန်ချက်များကို အသားပေး၍ ပြုစုထားသော ကျမ်းဂန်များဖြစ်ပြီး အချို့မှာမူ التَّفْسِيْرُ بِالرَّأْيِ (မှန်ကန်သော တွေးခေါ်ဖွင့်ဆိုပုံ) ကို အခြေခံ၍ ရေးသား ပြုစုထားခြင်းဖြစ်သည်။

**(၁) (التَّفْسِيْرُ بِالنَّقْلِ) ဆင့်ပြန်ချက်များကို အသားပေး၍ ရေးသားပြုစု ထားသော ကျမ်းဂန်များမှာ အချို့မှာ.....**

**(١) تَفْسِيْرُ ابْنِ جَرِيْرٍ**

ဤကျမ်းဂန်ကို ရေးသားပြုစုခဲ့သူမှာ **الإمام المجتهد أبو جعفر بن جرير بن يزيد الطبري (المتوفى ٣٢٠)** ဖြစ်သည်။

ဆရာသခင်ကြီး အမိန့်ရှိသည်မှာ “ ကျွန်ုပ်သည် ဤသဖ်စီရ် ကျမ်းကြီးကို မပြုစုမီ သုံးနှစ်အလျင်မှာပင် ထိုကျမ်းဂန်ကို ပြုစုရာ၌ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ အကူအညီကို တောင်းခံခဲ့သည်။ ထို့နောက် ဤကျမ်းပြုစုခြင်းကိစ္စနှင့်ပတ်သက်၍ အရှင်မြတ်ထံ အစ်သေခါရာ(အရှင့်ဘက်တော်မှ ကောင်းခြင်းကို ရွေးချယ်ပေးရန် တောင်းဆုချွေခြင်း) ပြုခဲ့သည်။” ပညာရှင်ကြီးသည် မိမိ၏ကျမ်းဂန်၌ သဖ်စီရ်နှင့် ပတ်သက်သည့်ဆင့်ပြန်ချက်များနှင့် ပညာရှင်များ၏ အဆိုအမိန့်များကို ဦးစားပေးဖော်ပြထားသည်။ ထို့နောက်တွင်လည်း ထိုအဆိုများကို ယှဉ်

ထိုး၍ ဦးစားပေးအဆိုကို ဖော်ပြပေးလေသည်။ ထို့ပြင် ပညာရှင်ကြီး သည် إعراب နှင့်သက်ဆိုင်သော အကြောင်းများနှင့် အမိန့် ပညတ်များ ကိုပါကောက်နုတ်ဖော်ပြလေသည်။

အေမာမ်အဗ္ဗနုသိုင်မီယဟ် (ﷺ) က ဤသို့အမိန့်ရှိသည်။ "လူတို့ လက်ဝယ်ရှိ ခိုင်မာတိကျဆုံးသဖ်စိရ်ကျမ်းဂန်မှာ تفسير ابن جرير ဖြစ် သည်။ ပညာရှင်ကြီး ابن جرير သည် မိမိ၏ ကျမ်းဂန်ထဲတွင် ရှေးယခင် ပညာရှင်ကြီးများ၏ အဆိုအမိန့်များကို တိကျခိုင်မာသော စနဒ်များဖြင့် ဖော်ပြထားသည်။ ထို့နောက် ယင်းသဖ်စိရ်ကျမ်းတွင် ဗစ်ဒအသ်(တရား သစ်တီထွင်ခြင်းနှင့်စပ်လျဉ်းသည့်) ကိစ္စရပ်များကို ဖော်ပြထားခြင်း မရှိ သကဲ့သို့ သံသယရှိသူများထံမှလည်း ဆင့်ပြန်ခြင်းမပြုပေ။

**(٢)تَفْسِيْرُ ابْنِ عَطِيَّةَ**

ဤကျမ်းကို ရေးသားပြုစုသူမှာ-

**الإمام شيخ المفسرين أبو محمد عبد الحق بن أبي بكر غالب بن عطية المحاربي الغرناطي (المتوفى ٥٤١)** ဖြစ်ပါသည်။ ထိုကျမ်း၏ အမည်မှာ **" الْمُحَرَّرُ الْوَجِيْزُ فِيْ تَفْسِيْرِ الْكِتَابِ الْعَزِيْزِ"** ဖြစ်ပါသည်။

ထိုကျမ်းဂန်သည် သဖ်စိရ်ကျမ်းဂန်များအနက်မှ အကောင်းမွန် ဆုံးသော ကျမ်းဂန်များစာရင်းတွင် ပါဝင်ပေသည်။ ထိုကျမ်းကပင် ပညာရှင်ကြီး၏ ထူးချွန်ပြောင်မြောက်မှုနှင့် အေမာမ်အဆင့်အတန်းရှိမှု ကို ဖော်ညွှန်းပြသနေပါသည်။

အေမာမ်အဗ္ဗုနုသိုင်မီယဟ်(ﷺ)က ဤသို့ အမိန့်ရှိသည်။ “ **تَفْسِيْرُ ابْنِ عَطِيَّةَ** သည် ဆင့်ပြန်ချက်များကို ခိုင်မာတိကျစွာ ဖော်ပြရာ၌လည်း ကောင်း၊ အမိန့်ပညတ်များကို ရှင်းလင်းပြသရာ၌လည်းကောင်း၊ ဗစ်ဒ် အသ်ကိစ္စ ရပ်များကို ဖော်ပြခြင်းမရှိသည့် ရှုထောင့်အရလည်းကောင်း **تفسير الزَمَخْشَرِيِّ**ထက် သာပို၍ ကောင်းမွန်ပေသည်။ သို့သော် ယင်းကျမ်း ဂန်၏ အချို့သော နေရာများတွင် ဗစ်ဒ်အသ်နှင့်ပတ်သက်သည့် အကြောင်းအ ရာများကို ဖော်ပြထားသော်ငြားလည်း **تَفْسِيْرُ الزَّمَخْشَرِيِّ** နှင့် ယှဉ်လျှင် နည်းပါသည်။ သို့သာမက ယင်းကျမ်းသည် ထိုကဲ့သို့သော သဖ်စီရ်ကျမ်း ဂန်များအနက်မှ အကောင်းမွန်ဆုံးကျမ်းပင်ဖြစ်သည်။

**(၃)تَفْسِيْرُ ابْنِ كَثِيْرٍ**

ဤကျမ်းဂန်ကို ရေးသားပြုစုသူမှာ-

**الإمام الجليل الحافظ عماد الدين أبو الفداء إسماعيل بن كثير القرشي البصروي الدمشقي (المتوفى ٧٧٤)** ဖြစ်သည်။

ဤကျမ်းဂန်သည် ဆင့်ပြန်ချက်များကို အဓိကအခြေခံ၍ ရေး သားထားသော သဖ်စီရ်ကျမ်းဂန်များအနက်မှ အကောင်းမွန်ဆုံးကျမ်း ဂန်ဖြစ်သည်။ ပညာရှင်ကြီးသည် အာယသ်တော်များကို သဖ်စီရ်ပြုရာ၌ ဦးစွာပထမ အာယသ်တော်များ၊ ခိုင်မာတိကျသော ဟဒီးစ်တော်များ၊ ဆွဟာဗဟ်သာဝကကြီးများ၏ အဆိုအမိန့်များ၊ သာဗီအီန်ကြီးများနှင့် အေမာမ်ကြီးများ၏ အဆိုအမိန့်များ စသည်တို့ကို အစဉ်လိုက် ထောက်

ရှု၍ သဖ်စိရ်ပြုထားလေသည်။ ပညာရှင်ကြီး၏ ကျမ်းဂန်တွင် အချို့သော အားနည်းသည့် ဟဒီးစ်တော်များဖော်ပြထားခြင်းကို တွေ့ရှိရသော်ငြားလည်း ဤကျမ်းဂန်သည် အကြောင်းအရာအားလုံးကို ခြုံငုံပါဝင်ခြင်း၊ အနုစိတ်ခြင်း၊ တိကျခိုင်မာစွာ တင်ဆက်ထားခြင်း စသည့် အချက်များကြောင့် ပညာရှင်များနှင့် ကျောင်းသားတို့ မှီငြမ်းကိုးကားရာ ကျမ်းဂန်ကြီးတစ်ခုအဖြစ် ရပ်တည်နေပေသည်။

### (၄)فَتْحُ الْقَدِيْرِ

ဤကျမ်းကို ပြုစုသူမှာ-

الإمام الفقيه بدر الدين محمد بن محمد الشَوْكَانِيْ ( ١١٧٣-١٢٥٠) ဖြစ်သည်။

ပညာရှင်ကြီး၏ ဤကျမ်းဂန်သည် သဖ်စိရ်ကဏ္ဍ၌ မှီငြမ်းကိုးကားရာ ကျမ်းတစ်ကျမ်းဖြစ်သည်။ ထို့နောက် ပညာရှင်ကြီးသည် မိမိကျမ်းတွင် ကုရ်အာန်ကျမ်းတော်မြတ်ကို اَلتَّفْسِيْرُ بِالنَّقْلِ နှင့် اَلتَفْسِيْرُ بِالرَّأْيِ နှစ်မျိုးစလုံးဖြင့် သဖ်စိရ်ပြုထားပေသည်။ သို့သော် اَلتَّفْسِيْرُ بِالنَّقْلِ ကို အကောင်းမွန်ဆုံးပုံစံဖြင့်ရေးသားထားသကဲ့သို့ اَلتَفْسِيْرُ بِالرَّأْيِ ကိုလည်း အကျယ်တဝင့် ဖော်ပြထားပေသည်။ ထိုနောက် ဖေကာဟ်ပညာရှင်ကြီးများ၏ အကွဲအလွဲများကိုလည်း တင်ပြထားပေသည်။ ပညာ့ရှင်ကြီးသည် မိမိ၏ ဤကျမ်းကို ဟစ်ဂျရီ (၁၂၂၃) ခုနှစ် ရဗီအွလ်အာခိရ်လတွင် အစပြုရေးသားခဲ့သည်။ ပညာရှင်ကြီး၏ ဤကျမ်းဂန်သည် အတွဲပေါင်း (၈)တွဲရှိပေသည်။

## (၂) اَلتَّفْسِيْرُ بِالرَّأْيِ ကို အခြေခံ၍ ရေးသားပြုစုထားသော ကျမ်းဂန်အချို့

### (၅)تَفْسِيْرُ الْكَشَّافِ

ဤကျမ်းကို ရေးသားပြုစုသူမှာ-
إمام العربية والنحو والبيان كبير المعتزلة أبو القاسم محمود بن عمر بن محمد الزمخشري الخوارزمي (المتوفى ٥٣٨) ဖြစ်သည်။

ထိုသဖ်စီရ်ကျမ်းတွင် ပညာရှင်ကြီးသည် အရဗီစာပေ၏ လင်္ကာမြောက်သည့် အလှတရားများ၊ စာပေအနုပညာများကို ဖော်ပြထားပေသည်။ ထို့အတွက်ကြောင့် ဤကဏ္ဍတွင် ယင်းသဖ်စီရ်သည် လူတိုင်းအတွက် မရှိမဖြစ်လိုအပ်သော သဖ်စီရ်တစ်ရပ်ဖြစ်ပေသည်။ အကယ်၍သာ ထိုပညာရှင်ကြီးသည် မိမိသဖ်စီရ်ကို မုအ်သဇိလာဟ်တို့၏ ဗစ်ဒ်အသ်များ(တရားတော်နှင့်ဆန့်ကျင်သည့် အယူအဆများ)၊ အာယသ်တော်များကို မုအ်သဇိလာဟ်လမ်းစဉ်အတိုင်း အဓိပ္ပာယ်များကို ပြောင်းလွဲကောက်ယူခြင်းများဖြင့် ညစ်ထေးအောင်မပြုခဲ့ပါမူ ယင်းကျမ်းဂန်သည် သဖ်စီရ်ကျမ်းဂန်များအနက်မှ အကောင်းမွန်ဆုံးကျမ်းဂန်ဖြစ်ပေမည်။ သို့သော် ပညာရှင်များသည် အရဗီလင်္ကာကဏ္ဍ၌ ဤကျမ်းကို မရှိမဖြစ်လိုအပ်ကြပေသည်။

အေမာမ်အဗ္ဗနုသိုင်မီယဟ်(ﷺ)က ဤသို့အမိန့်ရှိသည်။ “အေမာမ်ဇမခ်ရှရီ၏ သဖ်စီရ်တွင် ဗစ်ဒ်အသ်များ၊ ကုရ်အာန်ကျမ်းတော်မြတ်သည် ဖန်ဆင်းခံဖြစ်ကြောင်းပြောဆိုချက်များ၊ ကေယာမသ်နေ့၌ အလ္လာဟ်အရှင်မြတ်ကို ဖူးမျှော်ခွင့်ရရှိမည်ကို ငြင်းဆိုထားရှိမှုများနှင့်

အလ္လာဟ်အရှင်မြတ်၏ ဆွေဖာသ်(ဝိသေသတော်များ)ကို ငြင်းဆန်ခြင်းများ အစရှိသည့်မုအ်သဇိလဟ်တို့၏ ယုံကြည်ချက်များ ပါဝင်ပေသည်။”

## (٦) التَفْسِيْرُ الْكَبِيْرُ

ဤကျမ်းဂန်ကိုရေးသားပြုစုသူမှာ-

**إمام الفلسفة والكلام فخر الدين محمد بن عمر بن الحسين القرشي الرازي (المتوفى ٦٠٦)** ဖြစ်သည်။

အေမာမ်စူယူသွီ(ﷺ)က ဤကျမ်းနှင့်ပတ်သက်၍ ဤသို့အမိန့်ရှိသည်။ “ ပညာရှင်ကြီးသည် မိမိသဖ်စိရ်ကျမ်း၌ ဖီလော်ဆော်ဖီပညာရှင်များ၏ အဆိုအမိန့်များကို ဖော်ပြထားသည်။ ထို့နောက် အကြောင်းအရာတစ်ခုမပြီးဆုံးမီ အခြားအကြောင်းအရာတစ်ခုခုကို ဖော်ပြသည့်အတွက်ကြောင့် သဖ်စိရ်ပြုနေသော အာယသ်တော်နှင့် ကိုက်ညီမှုမရှိခြင်းအပေါ် စာရှုသူကို များစွာငြီးငွေ့စေသည်။” အေမာမ်အဗူဟိုက်ယားန် (ﷺ) သခင်က البحر ကျမ်းတွင် ဤသို့ဖော်ပြထားသည်။ “အေမာမ်ရာဇီ(ﷺ)သခင်သည် မိမိကျမ်း၌ သဖ်စိရ်နှင့်ပတ်သက်မှုမရှိသည့် ရှည်လျားထွေပြားသောအကြောင်းအရာများကို ဖော်ပြထားသည်။ ထို့ကြောင့် အချို့ပညာရှင်များက ဤသဖ်စိရ်နှင့်ပတ်သက်၍ ဤသို့ပြောဆိုကြသည်။ ‘ဤသဖ်စိရ်ကျမ်းတွင် သဖ်စိရ်နှင့်ပတ်သက်သည့် အကြောင်းအရာများမှအပ အခြားသောအကြောင်းအရာများ အစုံအလင်ရှိပေသည်။’

အခြားသော သဖ်စိရ်ကျမ်းဂန်ကြီးများ

### (٧) رُوْحُ الْمَعَانِيْ

ဤကျမ်းကို ရေးသာပြုစုသူမှာ-

**المحدث الفقيه المفسر الأديب أبو الثناء شهاب الدين محمود بن عبد الله الحسيني الألوسي (المتوفى: ١٢٧٠)** ဖြစ်သည်။

ပညာရှင်ကြီးသည် ဤကျမ်းကို ပြုစုရာ၌ အစွမ်းကုန်ကြိုးစားကာ သဖ်စိရ်လေ့လာသူတို့အတွက် အကောင်းဆုံး မှီငြမ်းကျမ်းဂန်တစ်စောင်အဖြစ် တင်ပြခဲ့သည်။ ဤကျမ်းတွင် ရှေးပညာရှင်ကြီးများ၏ သဖ်စိရ်နှင့်ပတ်သက်သည့် အဆိုအမိန့်များပါရှိသကဲ့သို့ နှောင်းပိုင်းပညာရှင်များ၏ အဆိုအမိန့်များလည်းပါရှိသည်။ ထို့နောက် ကုရ်အာန်ကျမ်းတော်မြတ်၏ ဖတ်ရွတ်ပုံများ၊ ကုရ်အာန်ကျမ်းတော်မြတ်၏ ညွှန်းဆိုချက်များနှင့်အမိန့်ပညတ်များ စသည့်အကြောင်းအရာများလည်း ပါဝင်သည်။ အချုပ်ဆိုရသော် ဤကျမ်းသည်-

تفسير ابن عطية، تفسير أبي حيان، تفسير الكشاف، تفسير أبي السعود، تفسير التبيضاوي، تفسير الفخر الرازي.

တို့၏ အနှစ်သာရ အချုပ်ကို အတိုးချုံးဖော်ပြထားသော ကျမ်းဂန်ကြီးအလားဖြစ်သည်။

### (٨) تَفْسِيْرُ الْبَيْضَاوِيْ

ဤကျမ်း၏ မူရင်းအမည်မှာ **(أَنْوَارُ الْتَنْزِيْلِ وَأَسْرَارُ التَّأْوِيْلِ)** ဖြစ်သည်။ ဤကျမ်းကို ရေးသားပြုစုသူမှာ-

**الإمام شيخ الإسلام قاضي القضاة ناصر الدين البيضاوي (المتوفى: ٦٨٥)** ဖြစ်သည်။

ဤကျမ်းသည် သဖ်စီရ်ကျမ်းဂန်ကြီးများအနက်မှ အလွန်ကျော်ကြားသော ကျမ်းဂန်ကြီး တစ်ကျမ်းဖြစ်သည်။ ဤကျမ်း၏ စာသားများသည် အလွန်ပြေပြစ်ချောမွေ့၍ သဖ်စီရ်နှင့်ပတ်သက်သည့် အဆိုအမိန့်များ စုံလင်စွာပါဝင်သော ကျမ်းတစ်ကျမ်းဖြစ်သည်။ ပညာရှင်ကြီးသည် မိမိကျမ်းတွင် ဆွဟာဗဟ်ကြီးများ၊ သာဗီအီးန်ကြီးများနှင့် အီမာမ်ကြီးများ၏ အဆိုအမိန့်များကိုဖော်ပြထားသည်။ ထို့နောက် အာယသ်တော်ကို တင်ပြပြီးနောက်တွင် ယင်းအာယသ်တော်နှင့် ကိုက်ညီသည့် ဟဒီးစ်တော်ကိုလည်း ဖော်ပြလေ့ရှိသည်။ ထို့ပြင် အမိန့်ပညတ်များနှင့် သက်ဆိုင်သည့် အာယသ်တော်များကို တင်ပြပြီးနောက်တွင်လည်း ဖေကာဟ်ပညာရှင်ကြီးများ၏ အကွဲအလွဲများကို တင်ပြလေသည်။ ပညာရှင်ကြီးသည် မိမိ၏ ဤကျမ်းတွင် الإسرائيليات ကို ဖော်ပြသည်မှာ အလွန်ပင်နည်းပါးလှသည်။ အချုပ်ဆိုရသော် ဤကျမ်းသည် အဟ်လေ့စွန္နသ်ဝလ်ဂျမာအသ်ဝင်များထံတွင် التفسير بالرأي ဖြင့်ရေးသားပြုစုခြင်းခံထားရသော မှီငြမ်းအကိုးအကားပြုရသည့် ကျမ်းဂန်များအနက်မှ တစ်ခုပင်ဖြစ်သည်။

## (၉) تَفْسِيْرُ الْجَلَالَيْنِ

ဤကျမ်းကိုရေးသားပြုစုသူမှာ-

**الإمامان جلال الدين المحلي** နှင့် **جلال الدين السيوطي** တို့ဖြစ်သည်။ ဤကျမ်းသည် ကုရ်အာန်ကျမ်းတော်မြတ်ကို အတိုချုံးသဖ်စီရ်ပြုထားသော

ကျမ်းဖြစ်သည်။ ဤကျမ်း၏ ပထမပိုင်းဖြစ်သည့် سورة الفاتحة အပါ အဝင် سورة الكهف မှ سورة الناس ထိကို الإمام جلال الدين المحلي က သဖ်စီရ် ပြုခဲ့ သည်။ သို့သော် ပညာရှင်ကြီးသည် ဤကျမ်း၏ ကျန်ရှိဒုတိယပိုင်းကို အစမပြုမီအလျှင်မှာပင် ဟစ်ဂျရီ (၈၆၄) ခုနှစ်၌ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို ခံယူခဲ့သည်။ ထို့အတွက်ကြောင့် ပညာရှင်ကြီး၏ တပည့်ဖြစ်သူ الإمام السيوطي သည် ယင်းကျမ်း၏ ကျန်ရှိဒုတိယပိုင်း( سورة البقرة မှ سورة الإسراء ထိ) ကို အဆုံးသတ်ရေးသာခဲ့သည်။ ထို့ကြောင့် ဤကျမ်းကို "تفسير الجلالين" ဟု ခေါ်ဆိုရခြင်းဖြစ်သည်။ الإمام السيوطي သည် ဤကျန်ရှိဒုတိယပိုင်းကို ဟစ်ဂျရီ(၈၇၀)ခုနှစ်၊ ရမသွာန်လဆန်း၌ စတင် ရေးခဲ့ပြီး ထိုနှစ်၏ ရှောင်ဝလ်လ (၁၀)နေ့မှာပင် အဆုံးသတ်ပြီးစီးခဲ့ သည်။

الإمام المحلي သည် မိမိ၏ ဤသဖ်စီရ်ကျမ်းကို ရေးသားရာ၌ အလွန်ပင် အတိုချုံး၍ ရေးသားခဲ့သည်။ ထို့ကြောင့် တပည့်ဖြစ်သူ الإمام السيوطي သည်လည်း မိမိဆရာဖြစ်သူ၏ လမ်းစဉ်အတိုင်း လိုက်၍ ရေး သားခဲ့သည်။ ထို့နောက် الإمام السيوطي သည် ယင်းသဖ်စီရ်ကျမ်းဂန်၏ အမှာစာတွင် ဤသို့ရေးသားခဲ့သည်။ "ကျွန်ုပ်သည် ဤကျမ်းတွင် သဖ်စီရ်ပြုရာ၌ ခိုင်မာကျစ်လျစ်မှုရှိသော အသုံးအနှုန်းများကို သုံးနှုန်း၍ အတိုချုံးသဖ်စီရ်ပြုသည်။ ထို့နောက် ကျွန်ုပ်သည် မလိုအပ်သည့် အဆို

အမိန့်များနှင့် အရဗီသဒ္ဒါနှင့်သက်ဆိုင်သည့် အကြောင်းအရာများကို လည်း မဖော်ပြထားပါ။

## (١٠) أَحْكَامُ الْقُرْآنِ

ဤကျမ်းကိုရေးသားပြုစုသူမှာ–

**(٣٧٠) أبو بكر أحمد بن علي الرازي الجصاص** ဖြစ်သည်။

ပညာရှင်ကြီးသည် မိမိ၏ကျမ်းထဲ၌ ဟနဖီမဇ်ဟဗ်၏ အထောက်အထားများကို စုစည်းဖော်ပြထားသည်။ ဤကျမ်းသည် ဟနဖီဖေကဟ်ကို အထူးပြုဖော်ပြထားသော ကျမ်းတစ်ကျမ်းဆူလည်းဖြစ်သည်။

ဤကျမ်း၏ထူးခြားချက်များအနက်မှ အချို့မှာ–

(က) အမိန့်ပညတ်တော်များနှင့် ပတ်သက်သည့် အာယသ်တော်များကို အပြည့်အစုံဖော်ပြထားသည်။

(ခ) အမိန့်ပညတ်များနှင့်သက်ဆိုင်သော အာယသ်တော်များနှင့်ပတ်သက်၍ ရှေးပညာရှင်များနှင့် နှောင်းပိုင်းပညာရှင်တို့၏ အကွဲအလွဲများကို ဖော်ပြထားသည်။

(ဂ) အကွဲအလွဲဖြစ်ကြသော မဇ်ဟဗ်တိုင်းအတွက် ယင်းတို့၏အထောက်အထားများကိုဖော်ပြသည်။

(ဃ) ဟဒီးစ်တော်များ၊ ဆွဟာဗဟ်များနှင့် သာဗီအီးန်ကြီးများ၏ အဆိုအမိန့်များကိုပါ စနဒ် (ကွင်းဆက်) နှင့်တကွ ဖော်ပြသည်။

ပညာရှင်ကြီးသည် မိမိ၏ခေတ်အခါ၌ ဟနဖီမဇ်ဟဗ်၏ အအေ မာမ်ကြီးတစ်ပါးဖြစ်သည်။ ထို့နောက် သခင်ကြီးသည် မိမိကျမ်းထဲတွင် အာယသ်တော်များနှင့် ဟဒီးစ်တော်များကို မှီငြမ်းကိုးကား၍ ဖေကဟ် အမိန့်ပညတ်ချက်များကို ကောက်နုတ်တင်ပြခဲ့သည်။ ထို့ပြင် ဖေကဟ် ပညာရှင်တို့၏ အယူအဆများကိုလည်းဖော်ပြထားသည်။ ထို့ကြောင့် ဤကျမ်းဂန်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို ဖေကဟ်ဓမ္မသတ်ရှု ထောင့်အရ သဖ်စီရ်ပြုထားသော ကျမ်းဂန်များအနက်မှ တစ်ခုပင်ဖြစ် သည်။

**(၁၁) صَفْوَةُ التَّفَاسِيْرِ**

ဤကျမ်းကို ရေးသားပြုစုသူမှာ ( فضيلة الشيخ محمد علي الصابوني المتوفى: ٢٠٢١) ဖြစ်သည်။ ဤကျမ်းသည် အာယသ်တော်များ၏ အဓိပ္ပာယ် များ၊ ညွှန်းဆိုချက်များ၊ အာယသ်တော်မှ ကောက်နုတ်ထားသောလမ်း ညွှန်ချက်များ စသည်တို့ကို ဖော်ပြထားသော ကျမ်းတစ်ကျမ်းဖြစ်ပေ သည်။

ပညာရှင်ကြီးသည် မိမိ၏ ကျမ်းကို ရှေးပညာရှင်ကြီးများ၏ တိ ကျခိုင်လုံပြီး ကိုးကားထိုက်သည့် သဖ်စီရ်ဆိုင်ရာ ကျမ်းဂန်ကြီးများကို မှီငြမ်း၍ ရေးသာပြုစုထားသည်။ ထို့နောက် နှောင်းပိုင်းပညာရှင်များ၏ အဆိုအမိန့်များကိုလည်း ဖော်ပြထားသည်။ ပြီးနောက် မုဖက်စိရ် ပညာ ရှင်များ၏ အဆိုအမိန့်များကိုလည်း နားလည်းရန်လွယ်ကူစေသော ပုံစံ မျိုးဖြင့် ဖော်ပြထားသည်။

ပညာရှင်ကြီးသည် စူရာဟ်တစ်ပုဒ်တိုင်း၏အစတွင် ထိုစူရာဟ်၌ပါရှိသော အကြောင်းအရာများကို အကျဉ်းချုံးဖော်ပြထားသည်။ ထို့နောက် အာယသ်တော်များကြား ပတ်သက်ဆက်နွယ်မှုများ၊ စကားလုံးများ၏ အရဗီစာပေဆိုင်ရာ ရှင်းလင်းချက်များ၊ ကျရောက်ခြင်းအကြောင်းခံများ၊ အရဗီစာပေအနုပညာဆိုင်ရာ ရှင်းလင်းချက်များ စသည်တို့ကိုဖော် ပြထားသည်။

ကျောင်းသားတို့အနေဖြင့် လက်စွဲပြုထားသင့်သည့် ကျမ်းစာအုပ်တစ်အုပ်ဖြစ်ကြောင်းကို လည်း မှတ်ချက်ပြုအပ်ပါသည်။

**(١٢) مُفْرَدَاتُ الْقُرْآنِ**

ဤကျမ်းကို ရေးသားပြုစုသူမှာ أبو القاسم الحسين بن محمد المعروف بالراغب الأصفهاني ( المتوفى: ٥٠٢) ဖြစ်သည်။

ဤကျမ်းတွင် ပညာရှင်ကြီးသည် ကုရ်အာန်ကျမ်းမြတ်လာ စကားလုံးများ၏ အဓိပ္ပာယ်များကို ဟဒီးစ်တော်များနှင့် အရဗီဂန္ထဝင်ကဗျာများကို ကိုးကား၍ အရဗီ ဗျည်းအက္ခရာအစဉ်ဖြင့် ဖော်ပြထားသည်။ ထို့နောက် စကားလုံးများ၏ မှန်ကန်တိကျသော အနက်အဓိပ္ပာယ်များကို သေချာဆန်းစစ်၍ ဖော်ပြသကဲ့သို့ အချို့သော စကားလုံးများ၏ ထင်ယောင်ထင်မှားဖြစ်စေသော အဓိပ္ပာယ်များကိုပယ်ဖျက်ပြီးနောက် ထိုစကားလုံးနှင့် သင့်လျော်သည့် အဓိပ္ပာယ်များကိုပါဖော်ပြ ပေးထားသည်။ ပမာဆိုရသော် “الخوف من الله ” ဆိုသည့် အလ္လာဟ်အရှင်မြတ်ကို

ကြောက်ရွံ့ ခြင်းနှင့် "الخوف من الأسد" ဆိုသည့် ခြင်္သေ့ကို ကြောက်ရွံ့ခြင်း ဟူ၍ တူညီမှုမရှိပါ။ အလ္လာဟ်အရှင်မြတ်ကို ကြောက်ရွံ့ခြင်းဆိုသည့် အလိုသဘောအား ခြင်္သေ့တစ်ကောင်ကို ရင်ဆိုင်ရသည့်အခါ ဖြစ်ပေါ်သည့် ကြောက်ရွံ့မှုမျိုးဖြင့် ဖွင့်ဆို၍ မရပါ။ ကေန်စင်စစ် အလ္လာဟ် အရှင်မြတ်ကို ကြောက်ရွံ့ခြင်းဆိုသည်မှာ အရှင်မြတ်၏ အမိန့်ပညတ်ချက်များကို တစ်သဝေမတိမ်းလိုက်နာပြီး အရှင်မြတ်ကို အမိန့်ဖီဆန်မှု မပြုခြင်းပင် ဖြစ်သည်။ အချုပ်ဆိုရသော် ဤကျမ်းသည် ကုရ်အာန်ကျမ်းတော်မြတ်လာ စကားလုံးများကို ရှင်းလင်းသည့်ကဏ္ဍ၌ ရေးသားပြုစုထားသော ကျမ်းများအနက် အကောင်းမွန်ဆုံးကျမ်းအဖြစ် ပညာရှင်များက လက်ခံ ထားကြပေသည်။

## (၃) မြန်မာ့မြေမှ သဖ်စီးရ်ပညာရှင်ကြီးများနှင့် သဖ်စီးရ်ကျမ်းများ

### (၁) ဟာဂျီလူ (၁၈၅၉–၁၉၄၂)

ဟာဂျီလူသည် မန္တလေး ဇာတိဖြစ်သည်။ မင်းတုန်းမင်း၊ သီပေါမင်းတို့လက်ထက် ကျောက်သံပတ္တမြားကုန်သည် ဦးစ၊ ဒေါ်ဟဝါဘီတို့မှ ဖွားမြင်သည်။ သက္ကရာဇ် ၁၂၂၁ (ရတနာပုံနန်းတည်နှစ်) (၁၈၅၉)တွင် မန္တလေးရွှေဘုန်းရှိန်ရပ်၌ ဖွားမြင်သည်။ အရဗီအမည်မှာ နူရွတ်ဒီးန်ဖြစ်သည်။ ငယ်မည်မှာ မောင်ကာလူဖြစ်သည်။ မွေးချင်းသုံးဦးအနက် ဒုတိယဖြစ်သည်။ အစ်ကိုကြီးမှာ သာသနာ့ပညာရှင် ဦးကာလာ (ခေါ်) မောင်လာနာ ရှဟာဘွဒ်ဒီးန်ဖြစ်သည်။ အစ်ကိုဖြစ်သူနှင့် အတူ မန္တလေးမြို့ မင်္ဂလာဗလီ ရှေ့ဆောင်ဆရာ ကာဘွလ် မောင်လာနာကြီးထံတွင်

သာသနာ့ပညာများ ဆည်းပူးခဲ့သည်။ ဆားကုန်း မြန်မာအာရဗီသိပ္ပံ ကျောင်းတည်ထောင်သူ မောင်လာနာဟာရှင် (ခေါ်) ဆရာကြီးခွာနှင့် ကျောင်းနေဖက်ဖြစ်သည်။

ဟာဂျီလူသည် မိဘမျိုးရိုးအရ ကျောက်ကုန်သည်ဖြစ်သည့်အ လျောက် သီပေါမင်းလက်ထက်တွင် အိန္ဒိယနိုင်ငံ ဘုံဘေသို့သွားရောက် ပြီး အရဗီသဒ္ဒါနှင့် သာသနာ့ပညာရပ်များကို ဆည်းပူးခဲ့သည်။ ရှေး ခေတ် မြန်မာ့ပညာရေးအခြေတည်ရာ ဘုန်းတော်ကြီးကျောင်းထွက် ဖြစ်သောကြောင့် မြန်မာစာပေနှင့် ပါဠိစာပေတို့ကို တတ်မြောက်ကျွမ်း ကျင်သည်။

ဟာဂျီလူပြုစုခဲ့သည့် စာပေများမှာ ကုရ်အာန်မြန်မာဘာသာ ပြန်သက်သက် အစောင် ၃၀(၁၉၁၁)၊ ကုရ်အာန်သဖ်စိရ် အဠကထာ အရဗီ မြန်မာ ၁၃စောင်(၁၉၃၈)၊ ကေသာဘွလ် ဖရာအစ်ဇ် (ခေါ်) အမွေ ဓမ္မ သတ် ဖြတ်ထုံးကျမ်း(၁၉၃၉)၊ ၁၉၁၁ မှ ၁၉၄၂ အတွင်း ဘ၀အတွေ့ အကြုံမှတ်တမ်းများဖြစ်သည်။ ဟာဂျီလူသည် သက္ကရာဇ် ၁၃၀၄ ခု၊ ကဆုန်လဆန်း ၆ ရက်၊ ၁၉၄၂ ခု မေ၊ အသက် ၈၃နှစ် အရွယ်၌ အမရပူ ရမြို့ (တောင်မြင့်) ဘုံးအိုးရွာတွင် အလ္လာဟ့်ကရုဏာတော်ခံယူကာ ကွယ်လွန်သည်။

## ဟာဂျီလူ၏ ကုရ်အာန်ဘာသာပြန်ကျမ်း

ကုရ်အာန်ကျမ်းမြတ်ကို အစမှအဆုံးတိုင် ပထမဆုံး မြန်မာဘာ သာပြန်ထားသည့်ကျမ်းကို ပထမကမ္ဘာစစ်ကြီးမဖြစ်မီ ၁၉၁၁ ခုနှစ်က

ပုံနှိပ်ထုတ်ဝေခဲ့သည်။ ဘာသာပြန်ဆိုသူမှာ မန္တလေးမြို့ ရွှေဘုန်းရှိန်ရပ်ရှမ်းစုစာတိုက်အနီးနေ ဟာဂျီနူရွတ်ဒင်နဲခေါ် ဟာဂျီလူ ဖြစ်သည်။ ဒေလီမြို့သား မြီရ်ဇာ ဟိုင်ဒရ်ပြန်ဆိုရေးသားသော အူရဒူဘာသာ သရ်ဂျူမာ သဖ်စိရ်နှင့် ထပ်တူထပ်မျှဖြစ်အောင် မြန်မာဘာသာဖြင့် ပြန်ဆိုရေးသားခြင်းဖြစ်သည်။ သူ၏ဘာသာပြန်ဆိုမှုတွင် အနက်အဓိပ္ပာယ် ထင်ရှားသိလွယ်အောင် ရန်ကုန်မြို့နေ ဆရာတိုင်းအား အချောပြုပြင်စီရင်စေသည်။

ဟာဂျီလူ၏ ကုရ်အာန်ဘာသာပြန်တွင် အာယသ်တော်တစ်ခုချင်းစီကို ဘာသာပြန်ရုံသာမက အာယသ်တော်များ ကျရောက်ပုံနောက်ခံအကြောင်းရင်းကိုပါ ရှင်းလင်းဖော်ပြထားပါသည်။ တမန်တော်များ၏ အတ္ထုပ္ပတ္တိနှင့် ဖြစ်ရပ်များအကြောင်းကို အကျယ်တဝင့်ဆက်စပ်ရှင်းလင်းတင်ပြထားပါသည်။ ဘာသာပြန်ခြင်း အဋ္ဌကထာဋီကာဖွင့်ခြင်းသဘောကို တွေ့ရပါသည်။ ဟာဂျီလူ၏ မြန်မာစာအရေးအသားကို တိုက်ရိုက်ဘာသာပြန်ဆိုခြင်းထက် သဖ်စိရ် အဋ္ဌကထာချဲ့ထွင်ခြင်းတွင် ပို၍အကဲခတ်နိုင်ပါသည်။

ဘာသာပြန်အစောင် တစ်စောင်ချင်းအဆုံးတွင် ဂျတ်ဇ်၌ပါသော အရဗီဘာသာကို မြန်မာဘာသာပြန်ဆိုသော အဘိဓာန်ဟု ခေါင်းစဉ်တပ်ကာ အဓိပ္ပာယ်ဖွင့် ဖော်ပြထားပါသည်။ မြန်မာအရဗီအဘိဓာန် ပေါ်ထွန်းရေးအတွက် လမ်းစပြခဲ့ပုံကို တွေ့ရပါသည်။ ထို့ကြောင့် နှစ် ၃၀ကြာပြီး ၁၉၄၁ ခုနှစ်တွင် ‘ကုရ်အာန်ကျမ်းတော်ကြီး အရဗီ၊

အင်္ဂလိပ်၊ မြန်မာအဘိဓာန်’ ပေါ်ထွက်ခဲ့သည်။ ထို့နောက် စူရာဟ်တစ်ခု၏ အစတွင် စူရာဟ်အမည်၊ အမှတ်စဉ်၊ ရကူ၊ အာယသ်၊ ကလေမဟ် (စာလုံးပေါင်း)၊ အက္ခရာပေါင်းတို့ကို ဖော်ပြလေ့ရှိသည်။ ပြီးနောက် အအူဇူ၊ ဘစ္စမိလ္လာဟ်၏ အဓိပ္ပာယ်ကို ဖော်ပြသည်။ ထို့နောက် အာယသ်တော် တစ်ခုချင်း၏ မြန်မာဘာသာပြန်ကိုတင်ပြသည်။ အာယသ်တော်ကျရောက်ပုံ နောက်ခံသမိုင်းကို ဖော်ပြရာ၌ ‘ပြဆိုလတ္တံ့သော (အာယသ်) တော်၏ နိဒါန်း’၊ ‘ရှေ့လာလတ္တံ့သော (အာယသ်)တော်၏ နိဒါန်း’၊ ‘လာလတ္တံ့သော (အာယသ်)တော်၏ နိဒါန်း’၊ ‘ရှေ့သို့လာလတ္တံ့သော (အာယသ်) အမိန့်ဗျာဒိတ်တော်၏ အကြောင်းကား ဤသို့တည်း’ ဟု ချိတ်ဆက်ကာတင်ပြပါသည်။ ဂျွတ်ဇ်တစ်ခုချင်း ဘာသာပြန်အဆုံးတွင် အလ္လာဟ်အရှင်မြတ်၏ ဂုဏ်ကျေးဇူးကို အသိအမှတ်ပြုကာ နောက်တစ် စောင် ရေးသားပါဦးမည်ဟုဆိုလေ့ရှိသည်။

ကုရ်အာန်မြန်မာဘာသာပြန်ဆိုမှုနှင့် ပုံနှိပ်ထုတ်ဝေမှုကို ၁၉၁၁ ခု ဇန်နဝါရီလကစ၍ ဆောင်ရွက်ခဲ့ရာ ၁၉၁၈ ခု ဇူလိုင် ၇ ရက် (ဟစ်ဂျရီ ၁၃၃၆ ရမ်ဇန်လ ၂၇ ရက် –လိုင်လသွလ်ကဒရ်နေ့– ၊ မြန်မာသက္ကရာဇ် ၁၂၈၀ ပြည့် ပထမဝါဆိုလဆုတ် ၁၅ ရက် တနင်္ဂနွေနေ့) ၇ နှစ် ၇ လအတွင်း အစောင်သုံးဆယ်ကို စက်တင်ပုံနှိပ်ပြီးစီးခဲ့ပါသည်။ သို့ဖြစ်ပေရာ ဟာဂျီလူ၏ ကုရ်အာန်ဘာသာပြန်ကျမ်းမှာ လူကြိုက်များခဲ့သည်။ စတင်ထုတ်ဝေစဉ်က မြန်မာဘာသာသက်သက်ဖြင့် ဘာသာပြန်ပုံနှိပ်ထုတ်ဝေခဲ့သည်။ (ယင်းကျမ်း၏ ၁၀ စောင်တွဲကို ၁၉၈၅ ခုနှစ်တွင် ထပ်မံ

ထုတ်ဝေခဲ့သည်။ ယခုအခါ အစ္စလာမ်သာသနာရေးရာ ကောင်စီဌာန ချုပ်က မူရင်းအတိုင်းပြန်၍ ထုတ်ဝေထား၏။) ၁၉၃၈ ခုနှစ်တွင် အရဗီမူ ရင်းစာသားနှင့် လုံးကောက်အဓိပ္ပာယ်မြန်မာနှင့်အတူ အရဗီဘာသာမှ ဘာသာပြန်၍ အစောင် ၁၃ အထိ ပုံနှိပ်ထုတ်ဝေခဲ့ပါသည်။

## (၂) သီရိပျံချီ အလ်ဟာဂျ် မောင်လာနာ ဃာဇီမုဟာမ္မဒ်ဟာရှင်မ်

မောင်လာနာ အလ်ဟာဂျ် ဃာဇီမုဟာမ္မဒ်ဟာရှင်မ် (ခ) ဆရာကြီး ဦးဟာရှင်မ်ကို ၁၉၁၇ ခု ဇန်နဝါရီ ၁ ရက်တွင် မွေးဖွားသည်။ ဆရာကြီးမှာ မြန်မာနိုင်ငံ အလယ်ပိုင်း ရမည်းသင်းခရိုင်၊ လယ်ဝေးမြို့ သားဖြစ်သည်။ အဖဘက်မှ ရမည်းသင်းခရိုင်၊ ပျော်ဘွယ်မြို့နယ်၊ လွဲပေါက်ကုန်းရွာအနွယ်၊ အမိဘက်မှ ရမည်းသင်းမြို့အနွယ် မြန်မာဘိုးဘေးမိဘများမှ ဆင်းသက်လာသူဖြစ်သည်။ ဆရာကြီးသည် အဖဦးပေါ်သိန်း၊ အမိဒေါ်ပန်းပုံတို့၏ သားသမီး (၁၁) ယောက်အနက် ပဉ္စမမြောက်ဖြစ်သည်။ မိဘမျိုးရိုးအစဉ်အလာအားဖြင့် တောင်သူလယ်လုပ်များဖြစ်၍ လယ်ဝေးဒေသတွင် ရှေးဦးစွာ ကြွယ်ဝချမ်းသာခဲ့ကြသော မြေပိုင်ယာပိုင်များဖြစ်ကြ သည်။

ပညာသင်စဉ် လယ်ဝေးမြို့ အစိုးရအထောက်အပံ့ခံ “အစ္စလာမ်မီယာ မုဟာမ္မဒီယာ” ကျောင်းတွင် ရှေးဦးစွာ ပညာသင်၍ လက်ဦးဆရာမှာ ရှမ်းအမျိုးသား ကျောင်းဆရာ ကျမ်းတော်မြတ် ကုရ်အာန် အာဂုံဆောင် “ဟာဖိဇ်ဦးတင်” ဖြစ်သည်။ ထိုကျောင်းတွင် ပညာသင်စဉ်က ထူးချွန်သူတစ်ဦးအနေနှင့် ဆရာတို့၏ ချီးကျူးခြင်းကို ခံရသည်သာမက

ဗြိတိန်နိုင်ငံ၊ ဝေလမင်းသား မြန်မာပြည်သို့လာရောက်လည်ပတ်စဉ်က ကျောင်းတိုင်းတွင် အတော်ဆုံးကျောင်းသားကို ဆုပေးရာ ထိုကျောင်း အတွက် “ဝေလမင်းသား ငွေတံဆိပ်” ကိုရရှိခဲ့သူဖြစ်သည်။ မိဘတို့မှာ အစ္စလာမ်ဘာသာဝင်များနှင့်သာမက ဗုဒ္ဓဘာသာဝင် မြန်မာများနှင့် လည်း အလွန်ရင်းနှီးစွာ ဆက်ဆံနေထိုင်ခဲ့သူများဖြစ်သည်။ ထိုစဉ်က အသက် (၁၂) နှစ်မျှသာ ရှိသေးသော ဦးဟာရှင်သည် ဆင်းရဲသောမိဘ တို့၏ အကူအညီဖြင့် ပညာဆက်လက်သင်ယူရန် မဖြစ်နိုင်သောကြောင့် ပညာဆက်လက်ဆည်းပူးနိုင်ရန် အတွက် မိတ်ဆွေတို့၏ အကူအညီဖြင့် ရန်ကုန်သို့ ရောက်ရှိခဲ့သည်။ ရန်ကုန်မြို့ စူရတီဗလီ၏ မွတ်ဖ်သီချုပ် ဖြစ်သော “ မောင်လာနာ အစ္စမာအီးလ်ဗိစ္စမစ်လ္လာဟ်” နှင့် တွေ့၍ ဟံသာဝတီခရိုင် ဒေးဒနေ့ာမြို့ရှိ “ဒါရွလ် အိုလူးမ်ကျောင်း” သို့ ပို့ပေးခံခဲ့ ရသည်။ ထိုကျောင်းတွင် အရဗီဘာသာ၊ အူရ်ဒူဘာသာ၊ ဖာရစီဘာသာ တို့ကို သင်ယူခဲ့သည်။ ဆရာကြီးသည် အင်္ဂလိပ်ဘာသာ၌လည်းထူး ချွန်သူတစ်ဦးဖြစ်သည်။ ထို့နောက်တွင် ဆရာကြီးသည် ဒါရွလ်အူလူးမ် (တာမွေ) ကျောင်းတွင်ပညာသင်ကြားခွင့်ရရှိခဲ့ပြီးနောက် ဟာဂျီဒါဝူးဒ် ဘက်မှ တာဝန်ယူပို့ဆောင်ပေးမည့် အိန္ဒိယနိုင်ငံ စဟာရမ်ပူရ်မြို့ရှိ မဇ္ဇာဟေ့ရ် အူလူးမ်ကျောင်းတော်တွင် သာသနာ့ပညာဆက်လက်သင် ကြားရန်အတွက် ပညာတော်သင်စာမေးပွဲတွင် အောင်မြင်သည့် ကျောင်းသားခြောက်ဦးအနက်မှ ပါဝင်ခဲ့သည်။ ထိုနောက် ဆရာကြီး သည် ထိုကျောင်းတော်ကြီးတွင် (၄) နှစ်တာ ပညာသင်ကြားပြီးနောက်

အာလင်မ်ပြီးမြောက်ကြောင်း ဘွဲ့စနဒ်ရရှိခဲ့သည်။ ထို့နောက် ဆရာကြီးသည် ဒုတိယကမ္ဘာစစ်ကြီးဖြစ်သောကြောင့် (၁၉၃၉) ခုနှစ်၊ နိုဝင်ဘာလတွင် မြန်မာနိုင်ငံသို့ ပြန်လာခဲ့သည်။

ဆရာကြီးသည် မြန်မာနိုင်ငံသို့ပြန်ရောက်ပြီးနောက်တွင် မဒ်ရစဟ် မုဟာမ္မဒီယာကျောင်း၌ ကျောင်းအုပ်ကြီးအဖြစ် လေးနှစ်တာ တာဝန်ယူဆောင်ရွက်ခဲ့သည်။ ထို့နောက် ကျမ်းမြတ်ကုရ်အာန်ကို မြန်မာဘာသာပြန်ဆိုရန် မြန်မာနိုင်ငံ အစ္စလာမ်မစ်ဘာသာရေးအဖွဲ့ ဖွဲ့စည်းသောအခါ ဆရာကြီးသည် အဖွဲ့ဝင်တစ်ဦးအဖြစ်ပါဝင်သည်။ ပြီးနောက် တာဝန်ခံဘာသာပြန်မှူးအဖြစ် ဆောင်ရွက်ရန် ဝန်ကြီးဟောင်း ဦးခင်မောင်လတ်နှင့် ဝန်ကြီးဟောင်းဦးရာရှစ်တို့က ရန်ကုန်သို့ဖိတ်ခေါ်ခဲ့ရာမှစ၍ ဘာသာပြန်လုပ်ငန်းကြီးပြီးဆုံးသည့် တိုင်ဆောင်ရွက်ခဲ့သည်။

ဆရာကြီးရေးသားပြုစုခဲ့သော စာအုပ်များမှာ (၅၆) အုပ်ရှိပါသည်။ သို့သော် ဒေါက်တာ ဟဖီဇွတ်ဒီးန်မဒနီ၏ လေ့လာချက်အရ ဆရာကြီး၏ စာအုပ်များမှာ (၁၆)ကျမ်းသာဖြစ်သည်။ ထို (၁၆) ကျမ်းတွင် အချို့ကျမ်းများသည်အတွဲဆက်များရှိသောကြောင့် စာအုပ်ရေစုစုပေါင်း (၅၇) အုပ်ဖြစ်သွားခြင်းဖြစ်သည်။

ဆရာကြီးသည် အိန္ဒိယနိုင်ငံမှ မြန်မာပြည်သို့ ပြန်လည်ရောက်ရှိပြီးခါမှစ၍ သာသနာ့အကျိုးကိုသယ်ပိုးရင်း (၁၉၉၃)ခုနှစ်၊ ဧပြီလ (၁၄) ရက်နေ့ ညပိုင်းအချိန်တွင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို ခံယူ၍ ကွယ်လွန်ခဲ့လေသည်။

## تبيان القرآن **ကုရ်အာန်ကျမ်းမြတ်၏ အလင်းပြကျမ်း**

ဤကျမ်းသည် ဆရာကြီး သီရိပျံချီ အလ်ဟာဂျ်မောင်လာနာ ဃာဇီမုဟာမ္မဒ်ဟာရှင်မ်၏ ပြုစုထားသောကျမ်းဂန်များအနက်မှ အကြီးမြတ်ဆုံးသော ကျမ်းဂန်တစ်ခုဖြစ်သည်။ ထိုကျမ်းသည် အတွဲပေါင်း (၂၈) တွဲရှိသည်။ ကုရ်အာန်ကျမ်းတော်မြတ်၏ အစောင်တစ်စောင်တိုင်းကို အတွဲတစ်တွဲပုံစံဖြင့်ရှိပေသည်။ သို့သော် (၂၁၊၂၂)အစောင်နှစ်ခုသည် တစ်တွဲတည်းဖြစ်၍ (၂၃၊၂၄)အစောင်နှစ်ခုမှာလည်း တစ်တွဲတည်းပင်ဖြစ်သည်။ ဆရာကြီးသည် ဤကျမ်းကို (၁၉၅၀) ပြည့်နှစ်၊ နိုဝင် ဘာ တစ်ရက်နေ့၌ စတင်ရေးသားခဲ့ပြီး ၁၉၆၇ ခုနှစ်၊ ဒီဇင်ဘာ ၂၉ ရက်နေ့တွင် အဆုံးသတ်ပြီးစီးခဲ့သည်။ ထိုကျမ်း၏ ပြုစုမှုကြာမြင့်ချိန်မှာ (၁၇) နှစ်တာဖြစ်သည်။

ဆရာကြီးသည် ဤကျမ်း၌ ဦးစွာပထမ အာယသ်တော်ကို အရဗီဘာသာဖြင့်ရေးသားသည်။ ထို့နောက် အာယသ်တော်၏ စာလုံးတစ်လုံးတိုင်းကို မြန်မာဘာသာဖြင့် ပြန်ဆိုသည်။ ပြီးနောက်တွင် အာယသ်တော်တစ်ခုလုံးကို မြန်မာဘာသာဖြင့်ပြန်ဆိုရေးသားလေသည်။ ထို့ပြင် ဆရာကြီးသည် စူရာဟ်များ၏အမည်များ၊ အမည်မှည့်ခေါ်ရခြင်း၏ အကြောင်းရင်းများ၊ အာယသ်တော်များနှင့် စူရာဟ်များကြား ပတ်သက်ဆက်နွယ်မှု၊ ကျရောက်ခြင်းအကြောင်းခံများ၊ အကျိုးကျေးဇူးများ၊ စူရာဟ်နှင့် အာယသ်တော်၌ပါဝင်သော အရေးကြီးသည့် အဓိက အချက်

အလက်များ၊ မှီငြမ်းအကိုးအကားပြုသည့် ကျမ်းဂန်ကြီးများ စသည်တို့ကို ဖော်ပြထားပါသည်။

**(၃) ဟာဇရသ် အလ်ဟာဂျ်မော်လာနာမွှဖ်သီကာရီ မိုဟမ္မဒ်ယူစွှဖ် (အဆ်အဒီ)**

ဆရာကြီး၏ အမည်မှာ ယူစွှဖ်ဖြစ်ပြီး ဖခင်၏အမည်မှာ ရှိုက်ခ်အဇီမွလ်လ္လာဟ်ဖြစ်သည်။ (၁၉၄၀) ခုနှစ်တွင် ရန်ကုန်မြို့၌ဖွားမြင်ခဲ့ပြီး မွေးချင်းမောင်နှမ (၁၀) ယောက်အနက် ဒုတိယမြောက်ဖြစ်သည်။

ဆရာကြီးသည် အသက်(၅)နှစ်အရွယ်တွင်တာမွေမြို့နယ် အခြေခံကျောင်းတွင် ခေတ်ပညာကို မူလတန်းထိ သင်ယူဆည်းပူးခဲ့ပါသည်။ ဘာသာရေးအခြေခံ ပညာကို မိခင်ကြီးထံတွင်သော်လည်းကောင်း ဟာဇရသ် အမိရ်ဆပ်ကြီး နှင့် မာစတာ အလီအဟ်မဒ်ဆွာဟိဗ်တို့ထံတွင်လည်းကောင်း သင်ယူဆည်းပူးခဲ့ပြီး တာမွေ ဒါရူလ်အူလူးမ်ကျောင်းကြီး၌ ရှရဟ်ဂျာမီ အတန်းထိ သင်ယူဆည်းပူးခဲ့ပါသည်။ ထို့နောက် ဆရာကြီးသည် အိန္ဒိယနိုင်ငံ စဟာရန်ပူး၏ မြို့ရှိမဇ္ဇာဟေ့ရ်အိုလူးမ် ကျောင်း၌ ပညာသင်ယူဆည်းပူးရန် (၁၉၅၇) ခုနှစ်တွင် အိန္ဒိယနိုင်ငံသို့ သွားရောက်ခဲ့သည်။ အိန္ဒိယနိုင်ငံတွင် လေးနှစ်တာသာသနာ့ပညာများကိုသင်ယူဆည်းပူးခဲ့ပြီးနောက် မိသားစုမှ ဆရာကြီးကို ပြန်လည်ခေါ်ယူခဲ့သောကြောင့် (၁၉၆၁) ခုနှစ်တွင် မြန်မာနိုင်ငံသို့ ပြန်လည်ရောက်ရှိလာခဲ့သည်။

ဆရာကြီးသည် မြန်မာနိုင်ငံကို စတင်ရောက်ရှိစဉ်မှာပင် ဒါရူလ်အူလူးမ် (တာမွေ) ကျောင်း၌ ဆရာအဖြစ် ခန့်အပ်ခံရပြီး ပညာသင်ကြားပို့ချခွင့်ရခဲ့ပါသည်။ သို့ဖြစ်ပေရာ ဆရာကြီးသည် ဤကျောင်းတော်ကြီး၌ (၁၉၇၈) ခုနှစ်ထိ ပညာသင်ကြားပေးခဲ့သည်။ (၁၉၇၉) ခုနှစ်တွင် အဆ်အဒီယာဟ်ကျောင်းတော်ကြီးကို စတင်၍ ထူထောင်ခဲ့ပါသည်။ ဆရာကြီးသည် ကျောင်းတော်ကြီးအပေါ် အချိန်အပြည့်အဝပေးပြီး ကျောင်းတော်ကြီးတိုးတက်ရေးအတွက် အတိုင်းအဆမရှိ ကြိုးပမ်းခဲ့ပါသည်။ ထို့ပြင် ဆရာကြီးသည် အွမ္မသ်ထုတစ်ရပ်လုံး အကျိုးဖြစ်ထွန်းစေရန်အလို့ငှာ ဘာသာပြန်စာအုပ်များကိုလည်း ရေးသားပြုစု၍ ဖြန့်ချီပေးခဲ့သည်။ ယနေ့ထိ ဆရာကြီး ဘာသာပြန်ရေးသားပြုစုခဲ့သောကျမ်းစာအုပ်များမှာ (၂၀၀) ကျော်ခန့်ပင်ရှိလေသည်။ ယင်းတို့အနက် အချို့ကျမ်းဂန်များမှာ –

၁။ ကုရ်အာန်ကျမ်းမြတ် ပါရာဟ်(၃၀) အုရ်ဒူမြန်မာဘာသာပြန်

၂။ မအာရိဖွလ်ကုရ်အာန် မြန်မာဘာသာပြန်ကျမ်း

၃။ ဘိုခါရီကျမ်း မြန်မာဘာသာပြန်

၄။ ရှမာလေလေသိရ်မိဇီ မြန်မာဘာသာပြန်ကျမ်း

၅။ လိုဂါသွလ်ကုရ်အာန်ကျမ်း

၆။ မဆာအေ့လေ့ဇကားသ်ကျမ်း

၇။ သမုဒ္ဒရာအောက်မှ ပုလဲလုံးလေးများ

၈။ အိခ်သေလာဖွလ်အအင်မ်မာဟ် မြန်မာဘာသာပြန်ကျမ်း စသည်တို့ဖြစ်ပါသည်။

ဆရာကြီးသည် ဟစ်ဂျ်ရီ ၁၄၄၂– ဇုလ်ဟိဂ်ျဂျဟ်–၁၄ရက်၊ ၂၀၂၁ ခု ဇူလိုင်လ ၂၅ ရက်၊ တနင်္ဂနွေနေ့ နံနက်မိုးသောက်ယံချိန်တွင် အလ္လာဟ်အရှင့် ကရုဏာတော်ခံယူ၍ ကွယ်လွန်ခဲ့သည်။ အလ္လာဟ်အရှင် ဆရာကြီးကို ဂျန္နသ်သွလ်ဖိရ်ဒေါက်စ်တွင် အဆင့်အတန်းမြင့်မြင့်ပေးသနားတော် မူပါစေ။

## ကျမ်းမြတ်ကုရ်အာန် အူရ်ဒူ၊ မြန်မာဘာသာပြန်

ဆရာကြီး ရေးသားပြုစုခဲ့သော ကျမ်းဂန်များအနက်မှ ကျမ်းမြတ်ကုရ်အာန် အူရ်ဒူ၊ မြန်မာ ဘာသာပြန်သည်လည်း မြန်မာ စာဖတ်ပရိသတ်အတွက် အဖိုးမဖြတ်နိုင် သော ရတနာ တစ်ပါးဖြစ်သည်။

ဆရာကြီးသည် မိမိကျမ်း၌ စူရာဟ်တစ်ခုတိုင်း၏ အစတွင် စူရာဟ်အမည်၊ ရူကူ၊ အာယသ်တော်တို့၏ အရေအတွက်ကို ဖော်ပြသည်။ ထို့နောက် စူရာဟ်သည် မက္ကီဖြစ်လျှင် မက္ကီ၊ မဒနီဖြစ်လျှင် မဒနီဖြစ်ကြောင်းကိုလည်း ဖော်ပြထားသည်။ ဆရာကြီးသည် ကုရ်အာန်ကျမ်းတော်မြတ်ကို အူရ်ဒူ၊ မြန်မာ ဘာသာနှစ်မျိုးဖြင့် ဘာသာပြန်ထားပေသည်။ ပြီးနောက်ဘာသာပြန်ဆိုရာတွင် နားလည်လွယ်စေရန် အလို့ငှာ မူရင်းအရဗီစာသား၌ ပါရှိသည့် အချို့အချက်အလက်များကို ကွင်းစကွင်းပိတ်ဖြင့် ရှင်းလင်းချက်များကိုဖော်ပြထားသည်။ မြန်မာစာအရေးအသားမှာလည်း အလွန်ပင် ပြေပြစ်ချော့မွေ့သောကြောင့် လျှင်မြန်စွာ

နားလည်သဘောပေါက်လွယ်ပေသည်။ ဆရာကြီးသည် မိမိ ဘာသာပြန်ကျမ်း၏ အဆုံးတွင် စူရာဟ်တစ်ပုဒ်တိုင်း၏ ထွတ်မြတ်မှုများကို ဟဒီးစ်တော်များမှ ကောက်နှုတ်ဖော်ပြထားသည်။ ထို့နောက် သဂ်ျဝီးဒ်ဆိုင်ရာ ရပ်နားခြင်းနည်းဥပဒေများကိုလည်း အကျဉ်းရုံးဖော်ပြထားသည်။ ထို့နောက် ဖတ်ရွတ်ရာ၌ အထူးသတိပြုရန်အရေးကြီးသောနေရာများကိုလည်း ဖော်ပြထားပေသည်။ အချုပ်ဆိုရသော် ဆရာကြီး၏ ဤကျမ်းသည် ကုရ်အာန်ဘာပြန်ကျမ်းများအနက် အလွန်ပင်ကောင်းမွန်လှသည့် ကျမ်းတစ်ကျမ်းဖြစ်သည့်အတွက်ကြောင့် တစ်သက်တွင် အနည်းဆုံး တစ်ကြိမ်လောက် ဖတ်ရှုလေ့လာရန် အကြံပြုလိုပါသည်။

## (၄) မော်လာနာ ဟာရှင်မ် (ခေါ်) ဆရာကြီး ဦးခွာ

၃၇၀၀ ဆက်ဖြစ်သော ဆရာကြီးခွာသည် ၁၈၈၇ ခုနှစ်တွင် မန္တလေးမြို့ ရန်မျိုးလုံ ကုလားပျိုရပ်၌ ဖွားမြင်ခဲ့သည်။ ဆရာကြီးဦးခွာသည် အဖ ဦးလူး၊ အမိ ဒေါ်ဖွာတီတို့၏ သားသမီး(၄)ဦးအနက် စတုတ္ထသားဖြစ်သည်။ ဦးလူးဒေါ်ဖွာတီတို့သည် မူလအားဖြင့် ဆားကုန်းတွင် နေထိုင်ခဲ့ကြသည်။ ဆရာကြီးသည် (၇)နှစ်သားအရွယ်တွင် မိဘများနှင့် ခွဲခွာ၍ စစ်ကိုင်းမြို့နေ အစ်မဖြစ်သူ ဒေါ်ပို၏ ခင်ပွန်းဖြစ်သော ဗလီဆရာကြီး ဦးဖြူထံတွင် အစ္စလာမ်ဘာသာရေး အခြေခံပညာနှင့် မြန်မာစာကို သင်ယူဆည်းပူးခဲ့သည်။ ထို့နောက် ဆရာကြီသည် ပညာသင်ယူပြီး အသက် ၁၇ နှစ်အရွယ်တွင် မိဘများထံ ပြန်ခဲ့သည်။ တစ်ဖန်

မိဘ တို့၏ စီစဉ်မှုအရ မန္တလေးမြို့ ၈၃ လမ်းနှင့် ၈၄ လမ်းကြား၊ ၂၅ လမ်းရှိ မင်္ဂလာဗလီကြီးတွင် အေမာမ်ရှေ့ဆောင်အဖြစ် တာဝန်ထမ်းနေသော ကာဘွလ် မော်လာနာကြီးထံတွင် အရဗီသဒ္ဒါ၊ ဖေကာဟ်၊ အိုစူလ်၊ အဒဗ်၊ ဟဒီးစ်နှင့် သဖ်စိရ်စသော ဘာသာရပ်များကို ပေါက်မြောက်အောင်သင်ယူဆည်းပူးခဲ့သည်။

ဆရာကြီး သက်တော် (၂၇)နှစ်အရွယ်တွင် မိမိဇာတိမြေဖြစ်သော မြေထူးအုပ်စုအတွင်းရှိ ဆွေမျိုးများကို တွေ့ရန် ခရီးထွက်လာခဲ့သည်။ သို့ဖြစ်ပေရာ ထိုနေရာများတွင် အစ္စလာမ်ဘာသာဝင်တို့၏ ဘာသာရေးအခြေအနေကို ကျေကွဲဖွယ်အဖြစ်တွေ့ရှိလိုက်ရသည်။ ထို့ကြောင့် ဆားကုန်းတွင် ကိုယ်ထူကိုယ်ထစနစ်ဖြင့် تعليم القرآن အမည်ရှိကျောင်းတော်ကြီးကို တည်ဆောက်ခဲ့သည်။ ထို့နောက် ဆားကုန်၊ ဆားကိုင်း၊ ဘုတ္တောနှင့် ရွာသစ်ကုန်းကျေးရွာ (၄)ရွာတို့မှ စည်းရုံး၍ရနိုင်သမျှ ကျောင်းသားလူငယ် (၁၀၀)ခန့်အား အစ္စလာမ့်ပညာများကို စတင်သင် ကြားပေးခဲ့သည်။ ထို့နောက် (၁၉၂၂) ခုတွင် ဆရာကြီးသည် ဆရာကြီးပုံ၏ ပူးပေါင်းကူညီမှုဖြင့် ဘုတ္တောကျေးရွာတွင် မဒ်ရစဟ် သဖ်လီဂီယဟ် အမည်ဖြင့် စာသင်ကျောင်းဖွင့်လှစ်သည်။ ဆရာကြီးဦးခွာက ကျောင်းအုပ်ဖြစ်ပြီး ဆရာကြီးပုံက စာချဆရာဖြစ်လာသည်။ ဆရာကြီးခွာနှင့် ဆရာကြီးပုံတို့သည် ၆ နှစ်တာကာလအတွင်း အောက်ဖော်ပြပါ ကျမ်းဂန် ကြီးများကို ရေးသားပြုစုခဲ့သည်။

၁။ တန်ခိုးတော်ပြခန်းကျမ်း။

၂။ နမားဇ်ခန်းကျမ်း၊ စူရာဖွာတေဟာသဖ်စိရ်ကျမ်း။

၃။ အမ္မာဂျုတ်ဇ် ဘာသာပြန်ကျမ်း။

၄။ အလစ်(ဖ်) လာမ်မီမ်သဖ်စိရ်ကျမ်း။

ဆရာသခင်ကြီး မောင်လာနာ ဟာရှင်မ် (ခေါ်) ဆရာကြီးဦးခွာသည် လူကြီးရောဂါဖြင့် ၁၉၅၆ ခုနှစ်တွင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို ခံယူ၍ ကွယ်လွန်သွားခဲ့သည်။ ဆရာကြီးဦးခွာ၏ ရုပ်ကလာပ်ကို ဆားကုန်းရွာ၏ 'ပိတောက်တော' အမည်ရှိ သင်္ချိုင်းတွင်နောင်တော်ဦးလွှာ၏ ကဗရ် မြေပုံအနီး၌ မြှုပ်နှံခဲ့ကြသည်။

ဆရာကြီးဦးခွာ ရေးသားသော စူရာဟ်ဖာတေဟာသဖ်စိရ်ကျမ်း၏ မျက်နှာဖုံးကို ဥပမာအနေဖြင့်ဖော်ပြလိုက်ပါသည်။

**စူရာဖွာတေဟာ၏ သဖ်စိရ်ကျမ်းမျက်နှာဖုံး**

**ပထမနှိပ်ခြင်း ၁၉၃၀ – ခုနှစ်**

**ကျမ်းပြုသူ**

**မြေထူးမြို့နယ် – ဘုတ္တောရွာ – သဗ်လီဂီယာ**

**ကျောင်းအုပ်ဟောင်း**

**မုဟမ္မဒ်ဟာရှင်မ် (ခေါ်) ဆရာခွာနှင့်**

**ကျောင်းအုပ်**

**မော်လဝီ ဗရှီးရ် အဟ်မဒ် (ခေါ်) ဆရာပုံ**

**တည်းဖြတ်သူများ**

– ရွှေဘိုဒိစကြိတ်၊ ကန့်ဘလူမြို့နယ်၊ ဆားကိုင်း ရွာ

- ဆရာကြီး အဗ္ဗဒွလ္လာဟ် (ခေါ်) ဆရာဆင်၊ ဆားကိုင်းရွာ
- ကျောင်းဆရာကြီး မုဟာမ္မဒ် ယူစွတ်ဖ် (ခေါ်) ဦးချစ်ဦး
- အစ်ဗရာဟင်မ်(ခေါ်) ဦးရွှေဖိ

**လေ့ကျင့်ခန်း**

၁။ မုဖက်စိရ်တစ်ဦးအတွက်အရေးကြီးသော စည်းကမ်းချက်များကိုဖော်ပြပါ။

၂။ မုဖက်စိရ်တစ်ဦး၏ ကျင့်ဝတ်များကို ဖော်ပြပါ။

၃။ ဆင့်ပြန်ချက်များကို အသားပေး၍ ရေးသားပြုစုထားသော ကျမ်းဂန်များ၏ အမည်နာမများကိုဖော်ပြပါ။

၄။ فتح القدير နှင့် تفسير ابن جرير တို့၏ ကျမ်းမိတ်ဆက်ကို အကျဉ်းချုံးရေးပါ။

၅။ التفسر بالرأي ကို အခြေခံ၍ ရေးသားပြုစုထားသော ကျမ်းဂန်များ၏ အမည်နာမများကို ဖော်ပြပါ။

၆။ تفسير الكشاف နှင့် التفسير الكبير တို့၏ ကျမ်းမိတ်ဆက်ကို အကျဉ်းချုံးရေးပါ။

၇။ أنوار التنزيل وأسرار التأويل، روح المعاني، أحكام القرآن، صفوة التفاسير ကျမ်းတို့၏ ကျမ်းရှင်အမည်များကို အပြည့်အစုံရေးပါ။

၈။ تفسير الجلالين နှင့် مفردات القرآن တို့၏ ကျမ်းမိတ်ဆက်ကို ရေးပါ။

၉။ ဟာဂျီလူ၏ အထ္ထုပ္ပတ္တိကို ရေးပါ။

၁၀။ "ကုရ်အာန်ကျမ်းမြတ်၏ အလင်းပြကျမ်း" ၏ ကျမ်းမိတ်ဆက်ကို ရေးပါ။

၁၁။ ဟာဇရသ် အလ်ဟာဂ်ျမော်လာနာမွှဖ်သီကာရီ မိုဟမ္မဒ်ယူစွဖ် (အဆ်အဒီ) ရေးသာပြုစုခဲ့သော ကျမ်းဂန်အချို့၏ နာမည်များကို ဖော်ပြပါ။

၁၂။ “ဆရာကြီးဦးခွာ” ၏ အတ္ထုပ္ပတ္တိကိုရေးပါ။

၁၃။ “သီရိပျံချီ အလ်ဟာဂ်ျ မောင်လာနာ ဃာဇီမုဟမ္မဒ်ဟာရှင်မ်” ၏ အတ္ထုပ္ပတ္တိကိုရေးပါ။

# المراجع والمصادر မှီငြမ်းကျမ်းများ



| စဉ် | ကျမ်းအမည် | ကျမ်းရှင် | ပုံနှိပ်တိုက် |
|---|---|---|---|
| ၁ | مباحث في علوم القرآن | مناع خليل القطان | الدار السعودية |
| ၂ | مبادئ في علم أصول التفسير | الأستاذ محمد أكرم الندوي | مكتبة الحرمين |
| ၃ | قواعد التفسير نشأتها وتطورها | د. سميع الحق | |
| ၄ | العلامة الشيخ الغازي محمد هاشم ومنهجه في تبيان القرآن | الدكتور حفيظ الدين المدني | |
| ၅ | تيسير مصطلح الحديث | الدكتور محمود الطحان | مكتبة الحرمين |
| ၆ | الفوز الكبير في أصول التفسير | الإمام ولي الله أحمد بن عبد الرحيم الدهلوي | |
| ၇ | စာပြု စာဆို ပုဂ္ဂိုလ်ကျော်များ (အကျဉ်း) | ပါမောက္ခဒေါက်တာ အောင်ဇော် | |
| ၈ | ကျမ်းမြတ်ကုရ်အာန် မြန်မာ ဘာသာပြန် | ကာရီ မိုဟမ္မဒ် ယူစွဖ် (အဆ်အဒီ) | ဒေါ်စိန်နွဲ့၊ ရွှေပြည့်စုံ အော့ဖ်ဆက် |
| ၉ | ဆူးကြားမှပွင့်သောနှင်း ဆီပန်းများ | မော်လာနာ မုဟမ္မဒ် အစ်ဗရာဟီးမ် (ဂျာမေ့အီ) | |
| ၁၀ | ကုရ်အာန်နိဒါန်း | မော်လဝီ ပသီကျော်ဦး | |
| ၁၁ | ဟာဂျီလူ၏ | အလ်ဟာဂျ် | အစ္စလာမ့် |

| | | | |
|---|---|---|---|
| | မြန်မာဘာသာပြန် ကျမ်းမြတ်ကုရ်အာန် (စာတမ်း) | ဒေါက်တာသန်းဝင်း | ဓမ္မဗိမာန် |
| ၁၂ | ကုရ်အာန်ကျမ်းမြတ် မြန်မာဘာသာပြန် | العلامة الشيخ الغازي محمد هاشم | |
| ၁၃ | Arbic Wikipedia | | |